ပြည့်စုံခြင်းကြောင့် ဖြစ်ပေါ်လာသော ပီတိက အာနာပါနပဋိဘာဂနိမိတ်အာရုံကို ရောင့်ရဲနှစ်သက်ခြင်းကို, သုခကလည်း ယှဉ်ဖက် စိတ်စေတသိက်တရားတို့ကို တိုးပွားခြင်းကို ပြုလုပ်ပေးတတ်၏။ ထိုသို့ ပြုလတ်သော် ဝိတက် ဝိစာရ ပီတိ သုခမှ ကြွင်းသော ဖဿ စသော ယှဉ်ဖက် သမ္ပယုတ်တရားစုနှင့် တကွသော ထိုစိတ်ကို ထိုဝိတက် ဝိစာရ ပီတိ သုခတို့က အာနာပါနပဋိဘာဂနိမိတ် အာရုံပေါ်သို့ ရှေးရှုတင်ပေးခြင်း အာနာပါနပဋိဘာဂနိမိတ် အာရုံ၌ ရှေးနှင့်နောက်ကို အစဉ်မပြတ်အောင် ဖွဲ့စပ်ပေးခြင်း, အာနာပါနပဋိဘာဂနိမိတ်အာရုံကို ရောင့်ရဲ နှစ်သက်ခြင်း, သမ္ပယုတ်တရားတို့ကို တိုးပွားစေခြင်းတို့ဖြင့် ချီးပင့်ထား၏။ ထိုသို့ ချီးပင့်ခံရသော စိတ်နှင့် အတူ ယှဉ်တွဲဖြစ်သော အလားတူ အချီးပင့်ခံရသော ဧကဂ္ဂတာသည် အာနာပါနပဋိဘာဂနိမိတ်တည်းဟူသော တစ်ခုတည်းသော သဘောရှိသော အာရုံ၌ သဒ္ဓါ ဝီရိယ သတိ သမာဓိ ပညာဟူသော ဣန္ဒြေငါးပါး ညီမျှသည်၏ အစွမ်းဖြင့် ဘာဝနာစိတ်ကို အညီအညွတ်ထား၏။ ဆန့်ကျင်ဘက် နီဝရဏတရားတို့မှ ဝေးသည်၏ အဖြစ်ကြောင့် အာနာပါနပဋိဘာဂနိမိတ်အာရုံမှ စိတ်တွန့်ဆုတ်မှု စိတ်ပျံ့လွင့်မှုတို့၏ ကင်းခြင်းဖြင့် အာနာပါနပဋိဘာဂနိမိတ် အာရုံ၌ ဘာဝနာစိတ်ကို ကောင်းစွာလည်း ထား၏။ ထိုကြောင့် ဝိတက် ဝိစာရ ပီတိ သုခ စိတ္တေကဂ္ဂတာဟူသော ဤငါးပါးသော တရားတို့၏ ထင်ရှားဖြစ်ပေါ်လာသည်၏ အစွမ်းအားဖြင့် ဤပထမဈာန်ကို ငါးပါးသော အင်္ဂါနှင့် ပြည့်စုံသည်၏ အဖြစ်ကို သိရှိပါလေ။

မှန်ပေသည် - ထိုငါးပါးကုန်သောတရားတို့သည် ထင်ရှားဖြစ်ကုန်လတ်သော် ဈာန်သည် ဖြစ်ပေါ်လာသည် မည်၏။ ထိုကြောင့် ထိုပထမဈာန်၏ ထိုဝိတက်စသော တရားငါးပါးတို့ကို ပြည့်စုံသော အင်္ဂါရပ်တို့ဟူ၍ ဆိုအပ်ကုန်၏။ ထိုကြောင့် ထိုဝိတက်စသော ဈာန်အင်္ဂါငါးပါးတို့နှင့် ပြည့်စုံသော ဈာန်မှ အခြားတစ်ပါးသာလျှင်ဖြစ်သော ဈာန်မည်သည် ရှိသေး၏ဟူ၍ကား မယူသင့်တော့ပြီ။ ထင်ရှားစေအံ့ – အစိတ်အပိုင်း အင်္ဂါမျှ၏ အစွမ်းဖြင့်သာလျှင် အင်္ဂါလေးပါးရှိသော စစ်သည်ဟူ၍လည်းကောင်း, အင်္ဂါငါးပါးရှိသော တူရိယာဟူ၍လည်းကောင်း, အင်္ဂါရှစ်ပါးရှိသော မဂ်ဟူ၍လည်းကောင်း ခေါ်ဆို၏သို့ အလားတူပင် ဤဈာန်ကိုလည်း ဈာန်၏ အစိတ်အပိုင်း အင်္ဂါမျှ၏ အစွမ်းဖြင့်သာလျှင် ဈာန်အင်္ဂါငါးပါးရှိသော ဈာန်ဟူ၍လည်းကောင်း, ဈာန်အင်္ဂါငါးပါးနှင့် ပြည့်စုံသော ဈာန်ဟူ၍ လည်းကောင်း ခေါ်ဆို၏ဟု သိရှိပါလေ။ (ဝိသုဒ္ဓိ-၁-၁၄၂။) (တစ်ခုစီကို ဈာန်အင်္ဂါဟုခေါ်၍ ငါးပါး အပေါင်းအစုကို ဈာန်ဟု ခေါ်ဆိုလိုသည်ဟု မှတ်ပါ။)

ထိုဈာန်အင်္ဂါ ငါးပါးတို့သည် ဥပစာရသမာဓိအခိုက်၌လည်း ထင်ရှားရှိကြကုန်သည်သာ ဖြစ်၏။ သို့သော်လည်း ဥပစာရသမာဓိအခိုက်၌ ပြကတေသော ကာမာဝစရစိတ်ထက်ကား အားကောင်းမောင်းသန်စွာ ဖြစ်ပေါ်လာကြကုန်၏။ အထူးမှာ ဤအပ္ပနာသမာဓိ = အပ္ပနာဈာန်စိတ်အခိုက်၌ကား ဥပစာရသမာဓိ အခိုက်အတန့်ထက်လည်း အလွန်အင်အား ကြီးမားလာကြကုန်၏။ ရူပါဝစရဈာန် လက္ခဏာသို့ ရောက်ရှိလာကြကုန်၏။ မှန်ပေသည် —

ဤ အပ္ပနာဈာန်သမာဓိအခိုက်၌ ဝိတက်သည် အလွန်သန့်ရှင်း ထင်ရှားသော အခြင်းအရာအားဖြင့် အာနာပါနပဋိဘာဂနိမိတ်အာရုံ၌ ဘာဝနာစိတ်ကို ရှေးရှုတင်လျက် တက်စေလျက် ဖြစ်ပေါ်လာ၏။ ဝိစာရသည်ကား ပညာနှင့် အလားတူ၍ အလွန်အကဲလျှင် အာနာပါနပဋိဘာဂနိမိတ်အာရုံကို သုံးသပ်ဆင်ခြင်လျက် ဖြစ်ပေါ်လာ၏။ ပီတိနှင့် သုခသည်ကား အလုံးစုံသော အစိတ်အပိုင်းရှိသည်လည်းဖြစ်သော ရူပကာယတစ်ခုလုံးကို ပျံ့နှံ့လျက် ပြည့်စေလျက် ဖြစ်ပေါ်လာ၏။ ထိုကြောင့် —

နာဿ ကိဉ္စိ သဗ္ဗာဝတော ကာယဿ ဝိဝေကဇေန ပီတိသုခေန အပ္ဖုဋံ ဟောတိ၊ (ဒီ-၁-၇၀။)

= ထိုဈာန်ကို ရရှိသော ဈာနလာဘီပုဂ္ဂိုလ်၏ အလုံးစုံသော အစိတ်အပိုင်းရှိသော ရူပကာယ တစ်ခုလုံး၏ နီဝရဏကင်းဆိတ်ခြင်းကြောင့် ဖြစ်ပေါ်၍လာသော နှစ်သက်ခြင်း ပီတိ ချမ်းသာခြင်း သုခဖြင့် မတွေ့ထိအပ်

သော တစ်စုံတစ်ခုသော အရပ် အစိတ်အပိုင်းသည်ကား မရှိတော့ပေ — ဟူ၍ ဘုရားရှင် ကိုယ်တော်တိုင် ဟောကြားထားတော်မူပြီ။

အောက်ဖြစ်သော အုပ်မ (= ကြုတ်အစ်ကြီး) အပြင်၌ အထက်ဖြစ်သော အုပ်ဖုံး (= ကြုတ်ဖုံး) အပြင်သည် ကောင်းစွာ အစေ့အစပ် မလပ်မလစ် ထိ၏သို့ စိတ္တေကဂ္ဂတာသည်လည်း အာနာပါနပဋိဘာဂနိမိတ်အာရုံ၌ ကောင်းစွာ ထက်ဝန်းကျင်မှ ကောင်းစွာ ထိသည်ဖြစ်၍ ဖြစ်ပေါ်လာ၏။ ဤသည်ပင်လျှင် ထိုရူပဝစရဈာန် လက္ခဏာသို့ ရောက်ရှိနေကြကုန်သော ဈာန်အင်္ဂါ ငါးပါးတို့၏ ဥပစာရသမာဓိ အခိုက်၌ ဖြစ်သော ဈာန်အင်္ဂါ ငါးပါးတို့မှ ထူးခြားချက်တည်း။

ထိုဈာန်အင်္ဂါတို့တွင် စိတ္တေကဂ္ဂတာကို သဝိတက္ကံ သဝိစာရံ စသော အထက်တွင် ဖော်ပြထားသော ဤပါဠိတော်၌ သရုပ်ထုတ်၍ တိုက်ရိုက်မဟောကြားအပ် မညွှန်ပြအပ်သည်ကား မှန်၏။ သို့သော်လည်း အဘိဓမ္မာ ဝိဘင်းပါဠိတော်၌ —

ဈာနန္တိ ဝိတက္ကော ဝိစာရော ပီတိ သုခံ စိတ္တဿေကဂ္ဂတာ။ (အဘိ-၂-၂၆၇။)

= ဈာန်ဟူသည် ဝိတက် ဝိစာရ ပီတိ သုခ ဧကဂ္ဂတာ (= စိတ္တဿေကဂ္ဂတာ) (ဤတရားငါးပါးတို့၏ အပေါင်း) တည်းဟု ဤသို့ ဘုရားရှင် ဟောကြားထားတော်မူသောကြောင့် စိတ္တေကဂ္ဂတာသည်လည်း ဈာန်အင်္ဂါ မည်သည်သာ ဖြစ်ပေသည်။ မှန်ပေသည် — အကြင် ဝိတက် စသည်တို့နှင့် တကွဖြစ်သော ဈာနဓမ္မကို ပြလိုသော ဆန္ဒတော်ဖြင့် သဝိတက္ကံ သဝိစာရံ စသည်ဖြင့် အကျဉ်း ဥဒ္ဒေသကို ဘုရားရှင်သည် ပြုတော်မူအပ်၏။ ထိုဝိတက် စသည်တို့နှင့် အတူတကွဖြစ်သော ဈာနဓမ္မကို ပြလိုသော ဆန္ဒတော်ကိုပင်လျှင် ထိုမြတ်စွာဘုရားသည် ဝိဘင်း ပါဠိတော်၌ ပြတော်မူအပ်၏ မှတ်ပါ။ (ဝိသုဒ္ဓိ-၁-၁၄၂။)

## ကောင်းခြင်းသုံးဖြာ လက္ခဏာဆယ်ပါး

၁။ ပဋိပဒါဝိသုဒ္ဓိ = ပထမဈာန်သို့ ရောက်ကြောင်းဖြစ်သော အကျင့်၏ စင်ကြယ်ခြင်းသည် ပထမဈာန်၏ အစ မည်၏။ ယင်းအစ၌ လက္ခဏာသုံးပါး ရှိ၏။

၂။ ဥပေက္ခာနုဗြူဟနာ = တတြမဇ္ဈတ္တုပေက္ခာ၏ ပွားခြင်းသည် ပထမဈာန်၏ အလယ် မည်၏။ ယင်းအလယ်၌ လက္ခဏာသုံးပါး ရှိ၏။

၃။ သမ္ပဟံသနာ = ရွှင်ခြင်း ကြည်လင်ခြင်းသည် ပထမဈာန်၏ အဆုံး မည်၏။ ယင်းအဆုံး၌ လက္ခဏာ လေးပါး ရှိ၏။

ဤသို့လျှင် ပထမဈာန်၌ ကောင်းခြင်းသုံးဖြာ လက္ခဏာဆယ်ပါး ရှိပေသည်။ ရှိပုံမှာ ဤသို့ ဖြစ်၏။

**ပဋိပဒါဝိသုဒ္ဓိ** — အလွန်ကြည်လင်တောက်ပနေသော အာနာပါနပဋိဘာဂနိမိတ်ကို အာရုံယူ၍ ယင်း အာနာပါနပဋိဘာဂနိမိတ် အာရုံ၌ ဘာဝနာစိတ်ကို ငြိမ်ဝပ်စွာ ကပ်ထားလျက် အာနာပါနဿတိသမာဓိကို ဆက်လက် ထူထောင်လာရာ အကြင်ဇောဝီရဉ်၌ အပ္ပနာဈာန်ဇောသည် ဖြစ်ပေါ်လာ၏။ ထို အပ္ပနာဇောဝီရဉ်၌ အကြင် နီဝရဏဟု ခေါ်ဆိုအပ်သော ကိလေသာတရားအပေါင်းသည် ထိုပထမဈာန်၏ ဘေးရန်တည်း၊ ထို နီဝရဏဟု ခေါ်ဆိုအပ်သော ဈာန်၏ ဘေးရန်မှ ပထမဈာန်စိတ်သည် စင်ကြယ်သွား၏။ (၁)

နီဝရဏဟူသော ဈာန်၏ ဘေးရန်မှ စင်ကြယ်သောကြောင့် ဈာန်ကို မရအောင် ပိတ်ကွယ် ဖုံးလွှမ်း ထားတတ်သော နီဝရဏမှ ကင်းသည်ဖြစ်၍ (နီဝရဏကို ပယ်ခွာ၍) အလယ်အလတ် ဖြစ်သော သမထနိမိတ်ကို ကျင့်၏။

**မဇ္ဈိမံ သမထနိမိတ္တံ** နာမ သမပ္ပဝတ္တော အပ္ပနာသမာဓိယေဝ။ (ဝိသုဒ္ဓိ-၁-၁၄၄။)

အာနာပါနပဋိဘာဂနိမိတ်အာရုံမှ ဘာဝနာစိတ်၏ တွန့်ဆုတ်သွားခြင်း, ပျံ့လွင့်သွားခြင်းသို့ မကပ်ရောက်သဖြင့် အညီအညွတ် ဖြစ်နေသော အပ္ပနာဈာန်သမာဓိသည်ပင်လျှင် ဘာဝနာအာရုံမှ စိတ်၏ တွန့်ဆုတ်ခြင်း, ပျံ့လွင့်ခြင်းဟု ဆိုအပ်သော အစွန်းနှစ်ဖက်တို့ကို မကပ်ရောက်သဖြင့် အလယ်အလတ် လမ်းမှန်ဖြစ်သော မဇ္ဈိမ သမထနိမိတ် မည်၏။ ယင်းပထမဈာန် အပ္ပနာဈာန်သမာဓိသည် အထက်အထက်သော ဈာန်စသော တရားထူး တရားမြတ်တို့၏ အကြောင်းရင်းလည်း ဖြစ်သောကြောင့် သမထနိမိတ်ဟူသော အမည်ကို ရရှိခြင်း ဖြစ်ပေသည်။

ထိုအပ္ပနာဈာန်အား အခြားမရှိသောအားဖြင့် ကျေးဇူးပြုခြင်းဟု ဆိုအပ်သော အနန္တရပစ္စယသတ္တိဖြင့် ကျေးဇူးပြုတတ်သော ရှေးဖြစ်သော ဂေါတြဘုစိတ်သည် တစ်ခုတည်းသော နာမ်သန္တတိအစဉ်၌ ညွတ်စေသော ပြောင်းလဲလာသော ဧကတ္တနည်းအားဖြင့် မှန်သောအဖြစ် အပ္ပနာဈာန်သမာဓိ၏ အစွမ်းသတ္တိဖြင့် ကောင်းစွာ တည်ကြည်သည်၏ အဖြစ်သို့ (= ထိုအပ္ပနာဈာန်သမာဓိ၏ အခြင်းအရာအားဖြင့် ဖြစ်ခြင်းသို့) ကပ်ရောက်သည်ဖြစ်၍ အလယ်အလတ်ဖြစ်သော မဇ္ဈိမ သမထနိမိတ်ကို ကျင့်သည် မည်၏၊ အလယ်အလတ် ဖြစ်သော မဇ္ဈိမသမထနိမိတ်သို့ ရောက်ရှိသည် မည်၏။ (၂)

ဤသို့ ကျင့်သောကြောင့် ဤသို့ မဇ္ဈိမသမထနိမိတ်သို့ ဆိုက်ရောက်သည်၏ အဖြစ်ကြောင့် ထိုအပ္ပနာဈာန်သမာဓိ၏ အခြင်းအရာအားဖြင့် ဖြစ်ခြင်းသို့ ကပ်ရောက်လာသဖြင့် ထို သမထနိမိတ်၌ ပြေးဝင်သည် မည်၏။ [မဇ္ဈိမသမထနိမိတ်သို့ ဆိုက်ရောက်သော ထိုခဏ၌ပင်လျှင် ထိုသို့ တည်ကြည်သော အခြင်းအရာရှိသော အပ္ပနာဈာန်သမာဓိ၏ အဖြစ်သို့ ကပ်ရောက်ခြင်းဖြင့် အပ္ပနာဈာန်သမာဓိဖြင့် စိတ်တည်ကြည်သည်၏ အဖြစ်သို့ ရောက်ရှိရကား ထိုမဇ္ဈိမသမထနိမိတ်၌ ပြေးဝင်သည် မည်၏။] (၃)

ဤသို့ ဆိုအပ်ပြီးသော နည်းဖြင့် ရှေးဦးစွာ ရှေးဖြစ်သော ဂေါတြဘုစိတ်၌ ထင်ရှားရှိသော —

၁။ နီဝရဏဘေးရန်တို့မှ စင်ကြယ်ခြင်း,

၂။ အလယ်အလတ်ဖြစ်သော မဇ္ဈိမသမထနိမိတ်သို့ ဆိုက်ရောက်ခြင်း,

၃။ ထိုမဇ္ဈိမသမထနိမိတ်၌ ပြေးဝင်ခြင်းတို့ကို ပြီးစီးစေတတ်သော ပထမဈာန်၏ ဖြစ်ဆဲ ဥပ္ပါဒ်ခဏ၌သာလျှင် လာခဲ့ရာလမ်းကြောင်း ကျင့်ဝတ်ပဋိပတ်၏ အစွမ်းဖြင့် ပဋိပဒါ ဝိသုဒ္ဓိကို သိရှိပါလေ။

(ဝိသုဒ္ဓိ-၁-၁၄၄။ မဟာဋီ-၁-၁၇၃။)

**ဥပေက္ခာနုဗြူဟနာ** — ဤသို့ နီဝရဏအညစ်အကြေးစသည်မှ စင်ကြယ်ပြီးသော ထိုပထမဈာန်စိတ်၏ နောက်ထပ်တစ်ဖန် စင်ကြယ်အောင် သုတ်သင်အပ်သည်၏ အဖြစ်၏ မရှိခြင်းကြောင့် စင်ကြယ်အောင် သုတ်သင်ခြင်း၌ ကြောင့်ကြဗျာပါရကို မပြုသော ယောဂါဝစရပုဂ္ဂိုလ်သည် နီဝရဏ စသည့် အညစ်အကြေးမှ စင်ကြယ်ပြီးသော ပထမဈာန်စိတ်ကို လျစ်လျူရှုသည် မည်၏။ (၁)

သမထအဖြစ်သို့ ဆိုက်ရောက်သွားသဖြင့် သမထလမ်းရိုး လမ်းမှန်အတိုင်းသွားနေသော ပထမဈာန်စိတ်ကို နောက်ထပ်တစ်ဖန် အညီအညွတ်ကောင်းစွာ ထားခြင်း၌ ကြောင့်ကြဗျာပါရကို မပြုသော ယောဂါဝစရပုဂ္ဂိုလ်သည် သမထလမ်းရိုး လမ်းမှန်အတိုင်း သွားနေသော ပထမဈာန်စိတ်ကို လျစ်လျူရှုသည် မည်၏။ (၂)

တစ်ဖန် သမထလမ်းရိုး လမ်းမှန်အတိုင်း သွားနေသည်၏ အဖြစ်ကြောင့်သာလျှင် ကိလေသာနှင့် ပေါင်းဖက်ခြင်းကို ပယ်စွန့်၍ ကိလေသာအဖော်မရှိ တစ်ဦးတည်း၏ အဖြစ်ဖြင့် တည်ပြီးသော ထိုအပ္ပနာဈာန်စိတ်၏ နောက်ထပ်တစ်ဖန် ကိလေသာ အဖော်ကင်း၍ တစ်ဦးတည်း၏ အဖြစ်ဖြင့် တည်ခြင်း၌, တစ်နည်း တစ်ခုတည်း

သော သဘောရှိသော အာနာပါနပဋိဘာဂနိမိတ်အာရုံ၌ မြဲစွာတည်ခြင်း၌ ကြောင့်ကြဗျာပါရကို မပြုသော ယောဂါဝစရပုဂ္ဂိုလ်သည် ကိလေသာအဖော်ကင်း၍ တစ်ဦးတည်း၏ အဖြစ်ဖြင့် တည်ခြင်းရှိသော အပ္ပနာစျာန်စိတ်ကို လျစ်လျူရှုသည် မည်၏။ ဤသို့လျှင် တတြမဇ္ဈတ္တုပေက္ခာ စေတသိက်၏ ကိစ္စ၏ အစွမ်းဖြင့် ဥပေက္ခာပြုဟနာ = တတြမဇ္ဈတ္တုပေက္ခာ၏ ပွားစေခြင်းကို သိရှိပါလေ။ (၃)

**သမ္ပဟံသနာ** — တစ်ဖန် ဤသို့ တတြမဇ္ဈတ္တုပေက္ခာသည် ပွားစေအပ်သော ထိုပထမစျာန်စိတ်၌ အတူယှဉ်တွဲ၍ ဖြစ်ကြကုန်သော သမာဓိ-ပညာဟု ခေါ်ဆိုအပ်ကုန်သော (အချင်းချင်း တစ်ပါးသည် တစ်ပါးကို မလွန်သည်၏ အစွမ်းဖြင့် မိမိ မိမိ၏ ဆိုင်ရာကိစ္စကို ပြုခြင်းကြောင့် ထမ်းပိုးတစ်ခု၌ အတူယှဉ်တွဲ၍ ဖွဲ့ချည်ထားအပ်ကုန်သော နွားတို့နှင့် တူကုန်၍) ရှုဉ်းစုံဖွဲ့အပ်သော အကြင်တရားတို့သည် အချင်းချင်း တစ်ပါးသည် တစ်ပါးကို မလွန်ကုန်သည်ဖြစ်၍ ဖြစ်ပေါ်လာကြကုန်၏။ (၁)

တစ်ဖန် သဒ္ဓါ ဝီရိယ သတိ သမာဓိ ပညာ ဟူသော ဣန္ဒြေငါးပါးတို့သည် အထူးထူးသော ကိလေသာတို့မှ လွတ်မြောက်သည့် အဖြစ်ကြောင့် ကိလေသာမှ လွတ်ခြင်းဟူသော ကိစ္စအားဖြင့် တူသောကိစ္စ ရှိကုန်သည်ဖြစ်၍ ဖြစ်ပေါ်လာကြကုန်၏။ (၂)

တစ်ဖန် ဤယောဂီသည် - သမာဓိ ပညာ နှစ်ပါးတို့၏ တစ်ပါးကို တစ်ပါး မလွန်ခြင်း, ကိလေသာတို့မှ လွတ်ခြင်းဟူသော ကိစ္စအားဖြင့် တူသောကိစ္စ ရှိခြင်းတည်းဟူသော ထိုအဖြစ်တို့အား လျော်သော အကြင်လုံ့လ ဝီရိယကို ဖြစ်စေ၏၊ ထိုပထမစျာန်စိတ်၏ ထိုပျက်ခြင်း ဘင်ခဏ၌ ဖြစ်ပေါ်လာသော အကြင်မှီဝဲခြင်းသည်လည်း ရှိ၏။ (ဖြစ်ခြင်း ဥပ္ပါဒ်ကာလကို လွန်၍ တည်ခြင်း ဌီကာလမှစ၍ မှီဝဲခြင်း အာသေဝနာ ဖြစ်သည် မည်၏။ မဟာဋီ-၁-၁၇၄။) ခပ်သိမ်းဥဿုံ အလုံးစုံလည်း ဖြစ်ကုန်သော တစ်ပါးသည် တစ်ပါးကို မလွန်ခြင်း အစရှိကုန်သော စျာန်စိတ်၌ အတူ ဖြစ်ကြကုန်သော သမာဓိ ပညာစသော တရားတို့၏ ဖြစ်ပေါ်လာသော ထိုအခြင်းအရာ အာကာရတို့သည် ညစ်နွမ်းခြင်း သံကိလေသ, ဖြူစင်ခြင်း ဝေါဒါနတို့၌ ညစ်နွမ်းခြင်း သံကိလေသကြောင့် ရရှိမည့် ထိုထို အပြစ်ကိုလည်းကောင်း, ဖြူစင်ခြင်း ဝေါဒါနကြောင့် ရရှိမည့် ထိုထို အကျိုးအာနိသံသကိုလည်းကောင်း ရှေးမဆွကပင် ပါရိဟာရိယဉာဏ်ပညာဖြင့် (= အရာရာ၌ ကျွမ်းကျင်လိမ္မာသော ဉာဏ်ပညာဖြင့်) သိမြင်၍ အကြင်အကြင်သို့သော အခြင်းအရာအားဖြင့် သမာဓိ ပညာတရားတို့၏ တစ်ပါးသည် တစ်ပါးကို မလွန်ခြင်း စသည်တို့သည် ဖြစ်ပေါ်လာနိုင်ကုန်၏၊ ထိုထို အခြင်းအရာအားဖြင့် အာနာပါနဿတိသမာဓိဘာဝနာ၏ ရွှင်စေအပ်သည်၏ အဖြစ်ကြောင့် ထိုပါရိဟာရိယဉာဏ်ပညာဖြင့်ပင်လျှင် သုတ်သင်အပ်ပြီးသည်၏ အဖြစ်ကြောင့်, ထက်ဝန်းကျင် ဖြူစင်စေအပ်ပြီးသည်၏ အဖြစ်ကြောင့် ပြီးစီးကုန်ပြီးသည်သာလျှင်တည်း။ ထိုကြောင့် —

ဓမ္မာနံ အနတိဝတ္တနာဒိဘာဝသာဓနေန ပရိယောဒါပကဿ ဉာဏဿ ကိစ္စနိပ္ဖတ္တိဝသေန သမ္ပဟံသနာ ဝေဒိတဗ္ဗာ။ (ဝိသုဒ္ဓိ-၁-၁၄၄-၁၄၅။)

= သမာဓိ ပညာ ဟု ဆိုအပ်ကုန်သော ဓမ္မတို့၏ တစ်ပါးသည် တစ်ပါးကို အချင်းချင်း မလွန်ခြင်း စသည်တို့၏ အဖြစ်ကို ပြီးစီးစေခြင်းဖြင့် သုတ်သင်တတ် ဖြူစင်စေတတ်သော ဉာဏ်၏ ကိစ္စပြီးစီးခြင်း၏ အစွမ်းဖြင့် သမ္ပဟံသနာ = ရွှင်ခြင်း ကြည်လင်ခြင်းကိုလည်း သိရှိပါလေ - ဟု (ဝိသုဒ္ဓိ-၁-၁၄၄။) ၌ မိန့်ဆိုခဲ့ခြင်း ဖြစ်ပေသည်။ (၃)

ထို အာနာပါနဿတိသမာဓိဘာဝနာစိတ်၌ တတြမဇ္ဈတ္တုပေက္ခာ၏ အစွမ်းဖြင့် ဉာဏ်သည် ထင်ရှား၏။ ပဋိသမ္ဘိဒါမဂ္ဂပါဠိတော် (၂၂၀)၌ အောက်ပါအတိုင်း ဟောကြားထားတော်မူ၏။

“အကြင် အခြင်းအရာအားဖြင့် ဝီရိယက ချီးမြှောက်၍ ထားအပ်သော (အာနာပါနဿတိသမာဓိ) ဘာဝနာစိတ်သည် ဘာဝနာလုပ်ငန်းခွင်၌ ပျင်းရိနေခြင်း = ကောသဇ္ဇအဖို့အစု၌ မကျရောက်၊ ထိုကဲ့သို့သော အခြင်းအရာအားဖြင့် ဝီရိယသမ္ဗောဇ္ဈင်၏ တည်ရာ ဖြစ်ကုန်သော အကြောင်းတရားတို့ကို ကြိမ်ဖန်များစွာ အလေ့အလာ ပြုသည်၏ အစွမ်းဖြင့် ဝီရိယက ချီးပင့်ထားအပ်သော ဘာဝနာစိတ်သည် ဝီရိယက မည်သို့ပင် ချီးပင့်ထားအပ်ပါသော်လည်း သမာဓိ၏ ဝီရိယနှင့် ညီမျှမှုရှိအောင် ယှဉ်စေခြင်း၏ အစွမ်းဖြင့် ချီးပင့်ထားအပ်သည် ဖြစ်သောကြောင့် ကောင်းစွာ (အာနာပါနပဋိဘာဂနိမိတ်အာရုံကို) လျစ်လျူရှုလျက် ရှိ၏။ အာနာပါနပဋိဘာဂနိမိတ်အာရုံကို လျစ်လျူရှုတတ်သော တတြမဇ္ဈတ္တုပေက္ခာ၏ အစွမ်းဖြင့်လည်းကောင်း, ရှေး၌ဖြစ်သော အရာရာ၌ ကျွမ်းကျင်လိမ္မာသော ပါရိဟာရိယပညာ၏ အစွမ်းဖြင့်လည်းကောင်း အပ္ပနာစျာန်နှင့် ယှဉ်တွဲလျက်ရှိသော အာနာပါနပဋိဘာဂနိမိတ်အာရုံကို ထိုးထွင်းသိမြင်နေသော ပညိန္ဒြေသည် လွန်ကဲလျက် ရှိ၏။ ထိုပညိန္ဒြေ၏ လွန်ကဲသည်၏ အဖြစ်ကြောင့်သာလျှင် အာနာပါနပဋိဘာဂနိမိတ်အာရုံကို အညီအမျှ လျစ်လျူရှုသူအားသာလျှင် လျစ်လျူရှုတတ်သော တတြမဇ္ဈတ္တုပေက္ခာ၏ အစွမ်းဖြင့် အထူးထူးသော သဘော ရှိကြကုန်သော နီဝရဏ အမျိုးရှိသော ကိလေသာတို့မှ ဘာဝနာစိတ်သည် လွတ်မြောက်သွား၏။ ကိလေသာတို့မှ လွတ်မြောက်ခြင်း၏ အစွမ်းဖြင့် အာနာပါနပဋိဘာဂနိမိတ်အာရုံကို ထိုးထွင်းသိနေသော ပညာ၏ အစွမ်းဖြင့် ပညိန္ဒြေသည် လွန်ကဲလျက်ရှိ၏။ ကိလေသာတို့မှ လွတ်မြောက်သောကြောင့် ထို သဒ္ဓါ ပညာ သမာဓိ ဝီရိယ ရှိသော တရားတို့သည် တူမျှသော = ညီမျှသော ကိစ္စ ရှိကြကုန်၏၊ ဤသို့လျှင် ဣန္ဒြေတို့၏ တူမျှသော = ညီမျှသော ကိစ္စ ရှိသည်၏ အဖြစ်ကြောင့် ပထမစျာန် အာနာပါနဿတိသမာဓိ ဘာဝနာသည် ဖြစ်ပေါ်လာရပေသည်။”

(ပဋိသံ-၂၂၁။)

ထိုသို့ ဥပေက္ခာ၏ အစွမ်းဖြင့် ဉာဏ်ကိစ္စ၏ ထင်ရှားသည်၏ အဖြစ်ကြောင့် အပ္ပနာပညာ၏ ကိစ္စ ဖြစ်၍ ဖြစ်သော ဘာဝနာစိတ်ကို ရွှင်ပျစေခြင်းကို ပထမစျာန်သမာဓိ၏ အဆုံးဟူ၍ ဖွင့်ဆိုခဲ့ခြင်း ဖြစ်ပေသည်။ (၄)

(ဝိသုဒ္ဓိ-၁-၁၄၅။)

ဤသို့လျှင် သုံးမျိုးသော ပထမစျာန်သို့ ရောက်ကြောင်း အကျင့်၏ စင်ကြယ်ခြင်း = ပဋိပဒါ ဝိသုဒ္ဓိ၏ အစွမ်းဖြင့်သာလျှင် ရအပ်သော ပထမစျာန်ဟူသော တရားထူး တရားမြတ်ရှိသော, သုံးမျိုးသော (အာနာပါနပဋိဘာဂနိမိတ်အာရုံကို အညီအမျှ လျစ်လျူရှုတတ်သော) တတြမဇ္ဈတ္တုပေက္ခာကို ပွားစေခြင်းဖြင့် အလွန်အကဲနှင့် တကွ ပညိန္ဒြေ၏ လွန်ကဲသော အတိုင်းအရှည်ရှိသည်၏ အဖြစ်ဖြင့် လေးမျိုးအပြားရှိသည်လည်း ဖြစ်သော ဘာဝနာစိတ်ကို ရွှင်စေခြင်း ကြည်လင်စေခြင်း သမ္ပဟံသနာသည် ပြီးစီးလာ၏။ ထိုကြောင့် —

၁။ ပထမစျာန်သို့ရောက်ကြောင်း အကျင့်ဖြစ်သော လာရာလမ်းကြောင်း ပဋိပဒါဝိသုဒ္ဓိ၌ လက္ခဏာ သုံးပါး,
၂။ တတြမဇ္ဈတ္တုပေက္ခာကို ပွားခြင်း ဥပေက္ခာဗြူဟနာ၌ လက္ခဏာသုံးပါး,
၃။ ဉာဏ်၏ ကိစ္စဖြစ်သော ဘာဝနာစိတ်၏ ရွှင်ခြင်း ကြည်လင်ခြင်း သမ္ပဟံသနာ၌ လက္ခဏာ လေးပါး —

ဤကောင်းခြင်း (၃)ဖြာ လက္ခဏာ (၁၀)ပါးတို့ကို ပထမစျာန်၌သာလျှင် ရနိုင်သော တရားတို့ဟူ၍ သိရှိပါလေ။ (မဟာဋီ-၁-၁၇၅။)

## ဈာန်ဟူသည်

အာရမ္မဏူပနိဇ္ဈာနတော ပစ္စနီကဈာပနတော ဝါ **ဈာနံ**။ (ဝိသုဒ္ဓိ-၁-၁၄၅။)

အာနာပါနပဋိဘာဂနိမိတ်ကဲ့သို့သော မိမိဘာဝနာစိတ်၏ သမထနိမိတ်အာရုံကို စူးစူးစိုက်စိုက် မြဲမြဲမြံမြံ ကပ်၍ ရှုတတ်သောကြောင့်လည်းကောင်း, နီဝရဏ အစရှိသော ဆန့်ကျင်ဘက် ကိလေသာ တရားစုတို့ကို လောင်ကျွမ်းစေတတ်သောကြောင့် (= ခပ်ကြာကြာ ခွာထားခြင်း ဝိက္ခမ္ဘန၏ အစွမ်းဖြင့် ပယ်စွန့်တတ်သော

ကြောင့်) လည်းကောင်း ဈာန် မည်၏။ (ဝိသုဒ္ဓိ-၁-၁၄၅။)

ဤစကားအရ မြေလျှိုး မိုးပျံမှု စသည်ကို ဈာန်ဟု မမှတ်ပါနှင့်။ ယင်းမြေလျှိုး မိုးပျံခြင်း စသည်ကား ဣဒ္ဓိဝိဓ စသော အဘိညာဏ်တို့၏ စွမ်းအားသာ ဖြစ်ပေသည်။

## ကြာမြင့်စွာ တည်တံ့ ခိုင်ခံ့ရေး

ထိုပထမဈာန်ကို ရရှိပြီးသည်ရှိသော် ထိုယောဂါဝစရပုဂ္ဂိုလ်သည် သားမြီးဖျားကို မှန်အောင် ပစ်နိုင်သော ဝါလဝေဓိ လေးသမားကဲ့သို့လည်းကောင်း, မင်း၏ စားတော်ကဲ ကဲ့သို့လည်းကောင်း အခြင်းအရာ အာကာရ တို့ကို ဉာဏ်ဖြင့် ပိုင်းခြားယူအပ် သိမ်းဆည်း မှတ်သားအပ်ကုန်၏။

အလွန်လိမ္မာသော လေးသမားသည် သားမြီးစွန်း သားမြီးဖျားကို ပစ်ခြင်းငှာ သင့်လျော်သော အမှုကို ပြုသည်ရှိသော် အကြင်အကြိမ်၌ သားမြီးစွန်းကို ထိမှန်၏ ထိုးပစ်မိ၏၊ ထိုမှန်သော အကြိမ် မှန်သော အချက်၌ မြားကို ပစ်လွှတ်သောအခါ နင်းသော ခြေတို့၏လည်းကောင်း, လေးကိုင်း၏လည်းကောင်း, လေးညို့၏လည်း-ကောင်း, မြား၏လည်းကောင်း ဤသို့ တည်နေသော ငါသည် ဤသို့ လေးကိုင်းကို ကိုင်၍ ဤသို့ လေးညို့ကို ကိုင်၍ ဤသို့ မြားကို ကိုင်၍ သားမြီးကို မှန်အောင် ပစ်ပြီ — ဤသို့ လေးကိုင်းကြိုး (ညို့) မြားတို့ကို ယူဟန် ကိုင်ဟန် အခြင်းအရာကို ဉာဏ်ဖြင့် သိမ်းဆည်း မှတ်သားရာ၏သို့ ထိုလေးသမားသည် ထိုမှန်သော အချက်မှ စ၍ ထိုရှေးက မှတ်သားသော အတိုင်းသာလျှင် ထိုလေးကိုင်းညို့ မြားတို့ကို ယူဟန် ကိုင်ဟန် အခြင်းအရာတို့ကို ပြည့်စုံစေလျက် မချွတ်ယွင်းစေမူ၍ သားမြီးကို မှန်အောင်ပစ်၏သို့ ဤဥပမာအတူပင်လျှင် —

ယောဂါဝစရပုဂ္ဂိုလ်သည်လည်း ငါသည် ဤမည်သော ဘောဇဉ်ကို စား၍ ဤသို့သဘောရှိသော ပုဂ္ဂိုလ်ကို မှီဝဲသည်ဖြစ်၍ ဤသို့ သဘောရှိသော ဘုရားရှင်၏ အဆုံးအမစကားတော် ကျင့်စဉ်ဟူသော သာသနာ တော်၌ ဤမည်သော ဣရိယာပုထ်ဖြင့် ဤမည်သော အချိန်အခါကာလ၌ ဤပထမဈာန်ကို ရဖူးပြီ - ဤသို့လျှင် လျောက်ပတ်သော ဘောဇဉ် အစရှိကုန်သော ထိုအခြင်းအရာတို့ကို ဉာဏ်ဖြင့် ပိုင်းခြားယူအပ် ဆင်ခြင်မှတ် သားအပ်ကုန်၏။ ဤသို့ ဆင်ခြင်မှတ်သား နှလုံးထားသည်ရှိသော် ထိုယောဂါဝစရပုဂ္ဂိုလ်သည် ထိုနုနယ်သော ပထမဈာန်သမာဓိသည် ပျောက်ပျက်သွားသော်လည်း ထို ဘောဇနသပ္ပါယစသော အခြင်းအရာ အာကာရတို့ကို ရှေးအတိုင်း ပြည့်စုံစေ၍ နောက်ထပ်တစ်ဖန် ထို ပထမဈာန်သမာဓိကို ဖြစ်စေခြင်းငှာ စွမ်းနိုင်လတ္တံ့၊ ကျေပွန် စွာ မလေ့လာအပ်သေးသော သမာဓိကိုလည်း ကျေပွန်စွာ လေ့လာအပ်သည်ကို ပြုလျက် အဖန်ဖန် အထပ်ထပ် ဝင်စားခြင်းငှာ စွမ်းနိုင်လတ္တံ့။

တစ်ဖန် လိမ္မာကျွမ်းကျင်သော မင်း၏ စားတော်ကဲသည် ထမင်းရိက္ခာ စသည်ဖြင့် မွေးပေတတ်သော အရှင်သခင်ကို ချက်ပြုတ်ကျွေးမွေးသည်ရှိသော် အရှင်သည် အကြင်အကြင် ဘောဇဉ်အာဟာရကို မြိန်မြိန် ရှက်ရှက် နှစ်သက်သဖြင့် သုံးဆောင်၏၊ ထိုထို ဘောဇဉ် အာဟာရကို ကောင်းစွာ မှတ်သား၍ ထိုနေ့မှ စ၍ ထို သခင် မြိန်နိုးထင်သော ဘောဇဉ်ကိုသာလျှင် ပွဲတော်တည်သည်ဖြစ်သော် ဆုလာဘ်၏ ရခြင်းအဖို့ရှိသည် ဖြစ်၏ သို့ - ဤဥပမာအတူပင် ဤယောဂါဝစရပုဂ္ဂိုလ်သည်လည်း ရှေးဈာန်ကို ရသောအခိုက်၌ ဘောဇဉ်စသည်၌ တည်ကုန်သော ဈာန်ကို ရခြင်း လုပ်ငန်းကိစ္စကို ပြီးစီးစေတတ်ကုန်သော အခြင်းအရာ အာကာရတို့ကို ဉာဏ်ဖြင့် သိမ်းဆည်းမှတ်သား၍ ထိုအခြင်းအရာတို့ကို ပြီးစီးပြည့်စုံစေသော် ပထမဈာန် သမာဓိသည် ပျောက်ပျက်သွား တိုင်း အဖန်ဖန် အထပ်ထပ် ယင်း အပ္ပနာဈာန်သမာဓိကို ရလေ့ရှိနိုင်၏။ ထိုကြောင့် ထိုယောဂါဝစရပုဂ္ဂိုလ်သည် သားမြီးဖျားကို မှန်အောင် ပစ်နိုင်သော လေးသမားကဲ့သို့လည်းကောင်း, စားတော်ကဲကဲ့သို့လည်းကောင်း ပထမ

ဈာန်ကို ရကြောင်းဖြစ်သည့် အခြင်းအရာ အာကာရတို့ကို ဉာဏ်ဖြင့် ပိုင်းခြားယူအပ် သိမ်းဆည်းအပ်ပေသည်။
(ဝိသုဒ္ဓိ-၁-၁၄၅-၁၄၆။)

ပဌမဈာန်ရကြောင်း အခြင်းအရာနိမိတ်ကို မှတ်သားခြင်းကြောင့် တစ်ဖန် ထိုပဌမဈာန် ရကြောင်း အခြင်းအရာ အာကာရတို့ကို ပြီးစီးပြည့်စုံစေသော ထိုယောဂါဝစရပုဂ္ဂိုလ်အား အပ္ပနာဈာန်မျှသည်သာလျှင် ပြီးစီးပြည့်စုံနိုင်၏၊ မြင့်ရှည်စွာ တည်တံ့ခိုင်မြဲခြင်းမူကား မပြည့်စုံနိုင်သေး။ အလျော်အားဖြင့် ဆိုရမူ - သမာဓိ၏ ဘေးရန် ဖြစ်ကြကုန်သော ကာမစ္ဆန္ဒအစရှိကုန်သော နီဝရဏတရားတို့၏ စင်ကြယ်အောင် ကောင်းစွာ သုတ်သင်အပ်ပြီးသည်၏ အဖြစ်ကြောင့် မြင့်ရှည်စွာ တည်တံ့ခိုင်မြဲခြင်းသည် ဖြစ်ပေါ်လာ၏။

မှန်ပေသည် — (၁) အကြင် ယောဂါဝစရရဟန်းသည် ကာမ၌ အပြစ်ကို ဆင်ခြင်ခြင်း, အသုဘ အခြင်းအရာကို နှလုံးသွင်းခြင်း, ကာမတို့မှ ထွက်မြောက်ခြင်း နေက္ခမ္မဓာတ်၏ အကျိုးအာနိသံသကို ဆင်ခြင်ခြင်း အစရှိသည်တို့ဖြင့် ကာမစ္ဆန္ဒကို ကောင်းစွာ မခွာမူ၍,

(၂) ကိုယ်၏ (စိတ်+စေတသိက်တို့၏) ငြိမ်းအေးခြင်း ကာယပဿဒ္ဓိ၏ အစွမ်းဖြင့် ကိုယ်၏ ပူပန်ခြင်းကို ကောင်းစွာ ငြိမ်းသည်ကို မပြုမူ၍ (ကိုယ်စိတ်တို့၏ ပူပန်ခြင်း၏ အကြောင်း ဖြစ်သော ဗျာပါဒ နီဝရဏကို မခွာမူ၍),

(၃) အပြင်းအထန် ရှေးဦးအစ ကြိုးစားအားထုတ်ခြင်း အာရမ္ဘဓာတ် အစရှိသော ဝီရိယသမ္ဗောဇ္ဈင် ဖြစ်ကြောင်း တရားတို့ကိုလည်းကောင်း, အလင်းရောင်ကို မှတ်သား ရှုပွားခြင်း အာလောကသညာ စသည်တို့ကိုလည်းကောင်း နှလုံးသွင်းခြင်း၏ အစွမ်းဖြင့် စိတ်စေတသိက်တို့၏ ထိုင်းမှိုင်းမှု ထိနမိဒ္ဓ နီဝရဏကို ကောင်းစွာ မပယ်ဖျောက်မူ၍,

(၄) အာနာပါနပဋိဘာဂနိမိတ်ကဲ့သို့သော သမထနိမိတ်ကို နှလုံးသွင်းခြင်းစသော သမာဓိသမ္ဗောဇ္ဈင် ဖြစ်ကြောင်းတရားတို့ကို နှလုံးသွင်းခြင်း စသည်တို့၏ အစွမ်းဖြင့် ဥဒ္ဓစ္စ = စိတ်ပျံ့လွင့်မှု, ကုက္ကုစ္စ = နောင်တတစ်ဖန် ပူပန်မှုဟူသော နီဝရဏ အညစ်အကြေးကို ကောင်းစွာ နုတ်ပယ်အပ်သည်ကို မပြုမူ၍,

(၅) ကာမစ္ဆန္ဒစသည်မှ တစ်ပါးလည်း ဖြစ်ကုန်သော သမာဓိ၏ ဘေးရန်အန္တရာယ် ဖြစ်ကြကုန်သော ဝိစိကိစ္ဆာ ဖြစ်ကြောင်းတရား, မာန်ယစ်ခြင်း မဒ = ထောင်လွှားခြင်း မာန စသော တရားတို့ကို ကောင်းစွာ မသုတ်သင်မူ၍

ဈာန်ကို ဝင်စားအံ့၊ ထိုရဟန်းသည် မသုတ်သင်အပ်သော မိမိတို့ ကိန်းအောင်းရာ ဝါးခေါင်းသို့ ဝင်သော ပျားပိတုန်းကဲ့သို့လည်းကောင်း, ဘေးရန်ကို မသုတ်သင်အပ်သော ဥယျာဉ်တော်သို့ ဝင်ရောက်သွားသော မင်းကဲ့သို့လည်းကောင်း ရှောင်တခင်သာလျှင် ဈာန်မှ ထွက်ရ၏။

အလျော်ကို ဆိုအံ့ — အကြင်ရဟန်းသည် သမာဓိ၏ ဘေးရန်ဖြစ်ကြကုန်သော နီဝရဏတရားတို့ကို ကောင်းစွာ စင်ကြယ်အောင် သုတ်သင်ပြီး၍ ဈာန်ကို ဝင်စားအံ့၊ ထိုရဟန်းသည် ကောင်းစွာ သုတ်သင်အပ်သော မိမိတို့ကိန်းအောင်းရာ ဝါးခေါင်းသို့ ဝင်ရောက်သွားသော ပျားပိတုန်းကဲ့သို့လည်းကောင်း, ရှံ့ရှာအပ်သော ဘေးရန် မရှိသဖြင့် ကောင်းစွာ စင်ကြယ်သော ဥယျာဉ်တော်သို့ ဝင်ရောက်သွားသော မင်းကဲ့သို့လည်းကောင်း အလုံးစုံသော နေ့အဖို့ပတ်လုံးသော်လည်း သမာပတ်၏ အတွင်း၌သာလျှင် တည်နေမှုသည် ဖြစ်နိုင်၏။ ထို့သို့ သမာဓိ၏ ဘေးအန္တရာယ် ဖြစ်သော နီဝရဏတရားတို့ကို ကောင်းစွာ သုတ်သင်ပြီးမှသာလျှင် ဈာန်သမာဓိ၏ ရှည်မြင့်စွာ တည်နိုင်သည်ဖြစ်သောကြောင့် ဈာန်သမာဓိ၏ ရှည်မြင့်စွာ တည်ခြင်းကို အလိုရှိသော ယောဂါဝစရ ပုဂ္ဂိုလ်သည် ဈာန်၏ ဘေးရန်ဖြစ်သော နီဝရဏတရားတို့ကို သုတ်သင်၍ ဈာန်ကို ဝင်စားအပ်ပေသည်။
(ဝိသုဒ္ဓိ-၁-၁၄၇။)

**စောဒနာပွယ်** — ဤပထမစျာန်ကို ရရှိသော စျာနလာဘီ ရဟန်းတော်သည် စောစောကပင်လျှင် ကာမတို့၏ အပြစ်ကို ဆင်ခြင်၍ စျာန်သမာဓိသို့ ရောက်ကြောင်းဖြစ်သည့် သမထလမ်းရိုး အကျင့်ကို ကျင့်ခဲ့ပြီး သည် မဟုတ်ပါလော၊ သည်မျှသာမကသေး ဤရဟန်းသည် ဥပစာရသမာဓိ အခိုက်ကပင်လျှင် ဥပစာရစျာန် သမာဓိဖြင့် နီဝရဏတရားတို့ကို ပယ်ခွာအပ်ကုန်ပြီးသည် မဟုတ်ပါလော၊ ထိုသို့ဖြစ်ပါလျက် အဘယ်ကြောင့် တစ်ဖန် ကာမတို့၏ အပြစ်ကို ဆင်ခြင်ခြင်း စသည်ကို ယူအပ်ပြန်ပါသနည်းဟု စောဒနာဖွယ်ရှိ၏။ အဖြေကား ဤသို့တည်း —

ဤဥပစာရသမာဓိခဏ၌ နီဝရဏကို ပယ်ခွာပြီး ဖြစ်ခြင်းသည် မှန်ပေ၏၊ ထိုသို့ပင် မှန်ပါသော်လည်း ထိုဥပစာရသမာဓိခဏ၌ နီဝရဏတို့ကို ပယ်ခွာခြင်းသည် ပယ်ခွာရုံမျှသာတည်း။ ထိုကြောင့် အပ္ပနာစျာန်၏ ကြာမြင့်စွာ တည်တံ့ခိုင်မြဲခြင်း အကျိုးငှာ အလွန်အကဲအားဖြင့် ပယ်ခြင်းအကျိုးငှာ နောက်ထပ်တစ်ဖန် ကာမ တို့၏ အပြစ်ကို ဆင်ခြင်ခြင်း စသည်ကို ယူအပ်ပြန်ပါသည် ဆိုအပ်ပြန်ပါသည် ဟူပေ။ (မဟာဋီ-၁-၁၇၇။)

စျာန်ကို ဝင်စားခိုက်၌ နီဝရဏတို့ကား ကွာနေသည်သာ ဖြစ်၏။ သို့သော် စျာန်မှ ထခိုက်၌ကား အယောနိသော မနသိကာရကို အကြောင်းခံ၍ နီဝရဏတို့ကား တစ်ဖန်ပြန်၍ ဝင်လာတတ်ပြန်၏၊ သို့အတွက် စျာန်ကို အချိန်ရှည်မြင့်စွာ ဝင်စားလိုသော စျာန်သမာပတ်၏ ရှည်မြင့်စွာ တည်တံ့ခိုင်မြဲမှုကို အလိုရှိသော ယောဂါဝစရ ပုဂ္ဂိုလ်သည် ကာမတို့၏ အပြစ်ကို ဆင်ခြင်ခြင်း စသည်ဖြင့် ဖြစ်ပေါ်လာတိုင်းသော နီဝရဏတို့ကို သန့်ရှင်း အောင် ပယ်ခွာပြီးမှ စျာန်ကို တစ်ဖန်ပြန်၍ ဝင်စားပါဟု ဆိုလိုပေသည်။

## အာဒိကမ္မိကပုဂ္ဂိုလ် လိုက်နာရမည့်စည်းကမ်း
## ဝင်စားမှု များပါစေ၊ ဆင်ခြင်မှု နည်းပါစေ၊

တသ္မိံ ပန နိမိတ္တေ ပတ္တပဌမဇ္ဈာနေန အာဒိကမ္မိကေန သမာပဇ္ဇနဗဟုလေန ဘဝိတဗ္ဗံ, န ပစ္စဝေက္ခဏ-ဗဟုလေန။ ပစ္စဝေက္ခဏဗဟုလဿ ဟိ စျာနင်္ဂါနိ ထူလာနိ ဒုဗ္ဗလာနိ ဟုတွာ ဥပဋ္ဌဟန္တိ။ အထဿ တာနိ ဧဝံ ဥပဋ္ဌိတတ္တာ ဥပရိ ဥဿုက္ကနာယ ပစ္စယတံ အာပဇ္ဇန္တိ။ သော အပ္ပဂုဏေ စျာနေ ဥဿုက္ကမာနော ပတ္တပဌမဇ္ဈာနာ စ ပရိဟာယတိ၊ န စ သက္ကောတိ ဒုတိယံ ပါပုဏိတုံ။ (ဝိသုဒ္ဓိ-၁-၁၄၈။)

= ထိုအာနာပါနပဋိဘာဂနိမိတ်အာရုံ၌ ရောက်အပ်ရအပ်ပြီးသော ပထမစျာန်ရှိသော စျာန်ကို ဦးစွာ ရစ ဖြစ်သော အာဒိကမ္မိက စျာနလာဘီပုဂ္ဂိုလ်သည် စျာန်ဝင်စားခြင်းများသည် ဖြစ်ရာ၏ (= စျာန်ကို များများ ဝင်စားရာ၏။) စျာန်အင်္ဂါကို ဆင်ခြင်ခြင်းများသည် မဖြစ်ရာ (= စျာန်အင်္ဂါကို ဆင်ခြင်မှု မများရ။) အပြစ်ကို ဆိုအံ့ — စျာန်အင်္ဂါကို ဆင်ခြင်ခြင်း များသောသူအား စျာန်အင်္ဂါတို့သည် ရုန့်ရင်းကုန်သည်ဖြစ်၍ ထင်လာ ကုန်၏၊ အားမရှိသည်ဖြစ်၍ ထင်လာကုန်၏။ [စျာန်အင်္ဂါများကို ဆင်ခြင်ခြင်း များသည့်အတွက် စျာန်အင်္ဂါ တို့သည် ထင်ရှားကုန်သည်၏ အဖြစ်ကြောင့် ရုန့်ရင်းကြမ်းတမ်းကုန်သည်ဖြစ်၍ ထင်လာကုန်၏။ စျာန်ဝင်စား မှုကို နိုင်နိုင်နင်းနင်း ကျွမ်းကျွမ်းကျင်ကျင်ဖြင့် စွမ်းအားကြီးမားသည်၏ အဖြစ်သို့ မရောက်စေအပ်သည်၏ အဖြစ်ကြောင့် စျာန်အင်္ဂါတို့သည် အသိဉာဏ်၌ ထင်ရှားသော်လည်း အားနည်းသည်ဖြစ်၍ ထင်လာကုန်၏။ (မဟာဋီ-၁-၁၇၈။)]

ထိုသို့ အသိဉာဏ်၌ ထင်လာလတ်သော် ထိုယောဂါဝစရပုဂ္ဂိုလ်အား ထိုစျာန်အင်္ဂါတို့သည် ဤသို့ ရုန့်ရင်း ကြမ်းတမ်းသော သဘော စွမ်းအင်နည်းပါးသော သဘောအားဖြင့် ထင်လာသည်၏ အဖြစ်ကြောင့် အာနာ ပါနဿတိသမာဓိ ဘာဝနာဖြင့် အထက်အထက် စျာန်သို့ တက်ခြင်းငှာ အကြောင်းတရားဖြစ်မှုသို့ မရောက်

နိုင်ကြကုန်။ ထိုယောဂါဝစရပုဂ္ဂိုလ်သည် ရရှိပြီးသော ဈာန်ကို (ဝသီဘော် ငါးတန် နိုင်နင်းအောင်) မပွားများအပ် မလေ့လာအပ်သည်ရှိသော် ဒုတိယဈာန်စသော အထက်ဈာန်ကို ရစိမ့်သောငှာ အားထုတ်ပါသော်လည်း ရရှိပြီး သော ပထမဈာန်မှလည်း ဆုတ်ယုတ်သွားတတ်၏။ ဒုတိယဈာန်သို့ ရောက်ရှိခြင်းငှာလည်း မစွမ်းနိုင် ဖြစ်တတ် ၏။ ထိုကြောင့် ဘုရားရှင်သည် အောက်ပါ ဂါဝီဥပမာသုတ္တန် (အံ-၃-၂၁၆)ကို ဟောကြားထားတော်မူခဲ့ပေသည်။

## ဂါဝီဥပမာသုတ္တန် ကောက်နုတ်ချက်

ရဟန်းတို့ . . . ဥပမာသော်ကား မိုက်မဲသော, မကျွမ်းကျင်သော, ကျက်စားရာ စားကျက် အကြောင်းကို သိရှိနားလည်မှု မရှိသော, မညီညွတ်သော တောင်၌ လှည့်လည်ကျက်စားခြင်းငှာ မလိမ္မာသော, တောင်၌ ကျက် စားသော နွားမသည် ရှိ၏။ (ထိုနွားမသည် တစ်နေ့တွင် တောင်ထိပ်တစ်နေရာမှ လှမ်းမျှော် ကြည့်လိုက်သော အခါ စိမ်းလန်းစိုပြည်သည့် မြက်သစ်ရွက်တို့ဖြင့် ဝိုင်းရံလျက်ရှိသော ကြည်လင်သော ရေရှိသော ရေအိုင်ကြီး တစ်ခုကို တွေ့မြင်ရသဖြင့်) ထိုနွားမ၏ စိတ်ဝယ် - "ငါသည် မရောက်ဖူးသေးသော အရပ်သို့လည်း ရောက်ရမူ, မစားဖူးသေးသော မြက်တို့ကိုလည်း စားရမူ, မသောက်ဖူးသော ရေတို့ကိုလည်း သောက်ရမူ ကောင်းလေစွ"ဟု ဤသို့ အကြံ ဖြစ်ရာ၏။ ထိုနွားမသည် (တောင်ထိပ်မှ ဆင်းသက်သောအခါ) ရှေ့ခြေကို နင်းကွင်း ကောင်းကောင်း ၌ ကောင်းစွာ ထောက်တည်နိုင်အောင် မထားဘဲ နောက်ခြေကို ကြွမိလေရာ၏၊ ထိုနွားမိုက်မသည် (တောင် ပေါ်မှ ကာပြန်ကျသဖြင့်) မရောက်ဖူးသေးသော အရပ်သို့လည်း မရောက်နိုင်လေရာ၊ မစားဖူးသေးသော မြက် တို့ကိုလည်း မစားရလေရာ၊ မသောက်ဖူးသေးသော ရေတို့ကိုလည်း မသောက်ရလေရာ၊ "ငါသည် မရောက်ဖူး သေးသော အရပ်သို့လည်း ရောက်ရမူ, မစားဖူးသေးသော မြက်တို့ကို စားရမူ, မသောက်ဖူးသေးသော ရေတို့ကို လည်း သောက်ရမူ ကောင်းလေစွ"ဟု ကြံစည်ခဲ့ရာဖြစ်သော နေရင်း တောင်ထိပ်အရပ်သို့လည်း ချမ်းသာစွာ ပြန်မရောက်လေရာ။

ထိုသို့ ဖြစ်ခြင်းသည် အဘယ်ကြောင့်နည်း - ရဟန်းတို့ . . . ထိုနွားမသည် မိုက်မဲ၍ မကျွမ်းကျင်ဘဲ, ကျက်စားရာ စားကျက်အကြောင်းကို သိရှိနားလည်မှု မရှိဘဲ, မညီညွတ်သော မြေအဖို့ရှိသော တောင်အရပ်၌ လှည့်လည်ခြင်းငှာ မလိမ္မာပါဘဲလျက် တောင်၌ ကျက်စားသောကြောင့်တည်း။

ရဟန်းတို့ . . . ဤဥပမာအတူပင်လျှင် ဤသာသနာတော်၌ (သမာဓိ၏ဘေးရန်တို့ကို စင်ကြယ်အောင် သုတ်သင်ခြင်းကို မသိသည်၏ အဖြစ်ကြောင့်) မိုက်မဲသော, (ဈာန်ကို နိုင်နိုင်နင်းနင်း လေ့လာနိုင်သည်၏ အဖြစ်သို့ ရောက်စေခြင်း၌ တတ်သိနားလည်မှု၏ မရှိခြင်းကြောင့်) မကျွမ်းကျင်သော, (အောက်အောက် ဈာန်၌ ဝသီဘော် နိုင်နင်းခြင်းသည် အထက်အထက် ဈာန်၏ အနီးကပ်ဆုံး အကြောင်းတရား = ပဒဋ္ဌာန်ဖြစ်မှုကို မသိခြင်းကြောင့်) မိမိကျက်စားရာ စားကျက်အကြောင်းကို မသိသော, (အချင်းခပ်သိမ်းအားဖြင့်လည်း ဈာန်သမာပတ်ကို ဝင်စား ခြင်း၌ ကျွမ်းကျင်လိမ္မာမှု စွမ်းအင်၏ မရှိခြင်းကြောင့်) မလိမ္မာသော ရဟန်းသည် - ဝတ္ထုကာမ ကိလေသာကာမ တို့မှ ကင်းဆိတ်သည် ဖြစ်၍သာလျှင် အကုသိုလ်တရားတို့မှ ကင်းဆိတ်သည်ဖြစ်၍သာလျှင် ကြံစည်မှု = ဝိတက်, သုံးသပ်ဆင်ခြင်မှု = ဝိစာရနှင့် တကွဖြစ်သော, နီဝရဏကင်းဆိတ်ခြင်းကြောင့် ဖြစ်ပေါ်၍လာသော နှစ်သိမ့်မှု = ပီတိ, ချမ်းသာမှု = သုခရှိသော ပထမဈာန်သို့ ရောက်လျက် နေ၏။

ထိုရဟန်းသည် ထိုနိမိတ်ကို (ပထမဈာန် သမာဓိနှင့် ထိုပထမဈာန်သမာဓိ ရကြောင်းဖြစ်သော အာနာပါန ပဋိဘာဂနိမိတ်ကို) အထပ်ထပ် မမှီဝဲ မပွားများ ကြိမ်ဖန်များစွာ မပြု ကောင်းစွာ တည်တံ့အောင် မဆောက် တည်။

ထို ရဟန်း၏ စိတ်ဝယ် - “ငါသည် ကြံစည်မှု = ဝိတက်, သုံးသပ်မှု = ဝိစာရတို့၏ ချုပ်ငြိမ်းခြင်းကြောင့် မိမိ၏ ကိုယ်တွင်းအဇ္ဈတ္တသန္တာန်၌ စိတ်ကို ကြည်လင်စေတတ်သော မြတ်သော စိတ်တည်ကြည်မှု = သမာဓိကို တိုးပွားစေတတ်သော ကြံစည်မှု = ဝိတက်, သုံးသပ်ဆင်ခြင်မှု = ဝိစာရ မရှိသော စိတ်တည်ကြည်မှု = သမာဓိကြောင့် ဖြစ်ပေါ်လာသော နှစ်သိမ့်မှု = ပီတိ, ချမ်းသာမှု = သုခရှိသော ဒုတိယစျာန်သို့ ရောက်၍ နေရမူ ကောင်းလေစွ”ဟု ဤသို့ အကြံ ဖြစ်ပေါ်လာ၏။

ထို ရဟန်းသည် ကြံစည်မှု = ဝိတက်, သုံးသပ်ဆင်ခြင်မှု = ဝိစာရတို့၏ ချုပ်ငြိမ်းခြင်းကြောင့် မိမိ၏ ကိုယ်တွင်း အဇ္ဈတ္တသန္တာန်၌ စိတ်ကို ကြည်လင်စေတတ်သော မြတ်သော စိတ်တည်ကြည်မှု = သမာဓိကို တိုးပွားစေတတ်သော ကြံစည်မှု = ဝိတက်, သုံးသပ်ဆင်ခြင်မှု = ဝိစာရ မရှိသော စိတ်တည်ကြည်မှု သမာဓိကြောင့် ဖြစ်ပေါ်လာသော နှစ်သိမ့်မှု = ပီတိ, ချမ်းသာမှု = သုခရှိသော ဒုတိယစျာန်သို့ ရောက်၍ နေရန် မစွမ်းနိုင်။

ထိုရဟန်း၏ စိတ်ဝယ် - “ငါသည် ဝတ္ထုကာမ ကိလေသာကာမတို့မှ ကင်းဆိတ်သည်ဖြစ်၍သာလျှင် အကုသိုလ်တရားတို့မှ ကင်းဆိတ်သည်ဖြစ်၍သာလျှင် ကြံစည်မှု = ဝိတက်, သုံးသပ်ဆင်ခြင်မှု = ဝိစာရနှင့် တကွဖြစ်သော နီဝရဏကင်းဆိတ်ခြင်းကြောင့် ဖြစ်ပေါ်၍လာသော နှစ်သိမ့်မှု = ပီတိ, ချမ်းသာမှု = သုခရှိသော ပထမစျာန်သို့ ရောက်၍ နေရမူ ကောင်းလေစွ”ဟု ဤသို့ အကြံ ဖြစ်ပြန်လေရာ၏။

ထိုရဟန်းသည် ဝတ္ထုကာမ ကိလေသာကာမတို့မှ ကင်းဆိတ်သည် ဖြစ်၍သာလျှင်။ ပ။ ပထမစျာန်သို့ ရောက်၍နေရန် မစွမ်းနိုင်။

ရဟန်းတို့ . . . မိုက်မဲသော မကျွမ်းကျင်သော ကျက်စားရာ စားကျက် အကြောင်းကို သိရှိနားလည်မှု မရှိသော မညီညွတ်သော တောင်၌ လှည့်လည် ကျက်စားခြင်းငှာ မလိမ္မာသော တောင်၌ ကျက်စားသော ထို နွားမိုက်မကဲ့သို့ ဤရဟန်းကို (ပထမစျာန် ဒုတိယစျာန်ဟူသော) နှစ်ပါးစုံမှ လျှောကျ ပျက်စီးသူ နှစ်ပါးစုံမှ ယုတ်လျော့သူဟု ဆိုအပ်ပေ၏။ (အံ-၃-၂၁၆။)

ထိုသို့ မိမိရရှိထားပြီး ဖြစ်သည့် ရရင်းစျာန်ကို ဝသီဘော်နိုင်အောင် = ကျေပွန်အောင် မလေ့လာဦးဘဲ အထက်စျာန်သို့ တက်ခြင်းငှာ အားထုတ်သော်လည်း ရရင်းစျာန်မှလည်း ယုတ်လျော့တတ်၍ အထက်စျာန် သို့လည်း တက်ရောက်ခြင်းငှာ မတတ်ကောင်းသည်၏ အဖြစ်ကြောင့် ဤယောဂါဝစရ ပုဂ္ဂိုလ်သည် ရှေးဦးစွာ ထိုရရင်း လက်ရှိ ပထမစျာန်၌သာလျှင် ငါးပါးကုန်သော အခြင်းအရာတို့ဖြင့် လေ့ကျင့်အပ် မှီဝဲအပ်ပြီးသော နိုင်နိုင်နင်းနင်း လေ့လာခြင်းရှိသည် (= ဝသီဘော်ငါးတန် နိုင်နင်းအောင် လေ့ကျင့်ခြင်း ရှိသည်) ဖြစ်လေရာ၏။

## ဝသီဘော် ငါးတန်

**ဝသီ** — လေ့လာခြင်း, အလိုအားလျော်စွာ ဖြစ်ခြင်း, နိုင်နင်းခြင်း, အလိုအားလျော်စွာ ဖြစ်စေနိုင်သော သတ္တိသည် ဝသီ မည်၏။ ယင်းတို့ကား အာဝဇ္ဇနဝသီ သမာပဇ္ဇနဝသီ အဓိဋ္ဌာနဝသီ ဝုဋ္ဌာနဝသီ ပစ္စဝေက္ခဏဝသီ ဟု ငါးမျိုး ရှိကုန်၏။

### ၁။ အာဝဇ္ဇနဝသီ

ပထမစျာန်ကို အကြင်အကြင် အလိုရှိရာ အရပ်၌ အကြင် အကြင် အလိုရှိတိုင်းသော စျာန်အင်္ဂါကို အကြင် အလိုရှိသမျှ ကာလပတ်လုံး ဆင်ခြင်နိုင်၏၊ ဆင်ခြင်ခြင်း အာဝဇ္ဇန်း ဖြစ်ခြင်း၏ နှေးဖြည်းသည်၏ အဖြစ် သည် မရှိငြားအံ့၊ ဤသို့ တတ်နိုင်လတ်သော် အာဝဇ္ဇနဝသီ မည်၏။

စျာန်အင်္ဂါကို ဆင်ခြင်မှု၌ နိုင်နိုင်နင်းနင်း ကျွမ်းကျွမ်းကျင်ကျင် ဆင်ခြင်နိုင်သော မနောဒွါရာဝဇ္ဇန်း၏ သတ္တိသည် အာဝဇ္ဇနဝသီ မည်၏။

ပဌမစျာန်ကို ဝင်စားပြီးလျှင် ပဌမစျာန်မှ ထ၍ ရှေးဦးစွာ ပဌမစျာန်၌ ပါဝင်သော ဝိတက် စျာန်အင်္ဂါကို ဆင်ခြင်သော ယောဂါဝစရပုဂ္ဂိုလ်၏ သန္တာန်ဝယ် ဘဝင်္ဂစလန = လှုပ်သော ဘဝင်, ဘဝင်္ဂုပစ္ဆေဒ = ဘဝင်အယဉ်ကို ဖြတ်သောဘဝင် ဖြစ်ပြီး၍ ယင်း ဘဝင်္ဂုပစ္ဆေဒ နောင်တွင် ဝိတက်ကို အာရုံပြု ဆင်ခြင်သော မနောဒွါရာဝဇ္ဇန်း ဖြစ်ပေါ်လာ၏။ ယင်းမနောဒွါရာဝဇ္ဇန်း၏ အခြားမဲ့၌ ဝိတက်လျှင် အာရုံရှိသည်သာလျှင် ဖြစ်ကြကုန်သော ယင်းဝိတက်ကိုပင် ဆင်ခြင်တတ်သော ပစ္စဝေက္ခဏာဇောတို့သည် ဣန္ဒြေထက်မြက်သူ ယောဂါဝစရပုဂ္ဂိုလ်အား လေးကြိမ်, ဣန္ဒြေ မထက်လွန်းသော ယောဂါဝစရပုဂ္ဂိုလ်အား ငါးကြိမ် လျင်မြန်စွာ စောကုန်၏။ (ခုနစ်ကြိမ် မစောတော့ ဟူလို။)

ထိုလေးကြိမ် ငါးကြိမ်သောဇောမှ နောက်၌ ဘဝင်္ဂစလန ဘဝင်္ဂုပစ္ဆေဒဟု ဘဝင်နှစ်ကြိမ် ဖြစ်ပြန်ကုန်၏၊ ထိုဘဝင်္ဂုပစ္ဆေဒ နောင်၌ တစ်ဖန် ဝိစာရလျှင် အာရုံရှိသော ဝိစာရကို ဆင်ခြင်သော မနောဒွါရာဝဇ္ဇန်းသည် ဖြစ်ပေါ်လာ၏။ ထိုနောင် ဝိစာရကိုပင် ဆက်လက်၍ အာရုံပြု ဆင်ခြင်ကုန်သော လေးကြိမ် ငါးကြိမ်သော ပစ္စဝေက္ခဏာဇောတို့သည် စောကုန်၏။ ထိုနောင် ပီတိ သုခ ဧကဂ္ဂတာတို့ကို အသီးအသီး ဆင်ခြင်သော ဝီထိများ ဆက်ကာ ဆက်ကာ ဖြစ်ကြ၏။

ဤသို့သောနည်းဖြင့် စျာန်အင်္ဂါ ငါးပါးတို့၌ အကြင်အခါ၌ စျာန်အင်္ဂါမှ အခြားတစ်ပါးသော အာရုံတို့ကို အာရုံမပြုဘဲ စျာန်အင်္ဂါတို့ကိုသာ ဆက်ကာ ဆက်ကာ ဆက်တိုက် အာရုံပြုနေခြင်းကြောင့် ဝိသဘာဂအာရုံတို့ဖြင့် အခြားမရှိသော စိတ်ကို စေလွှတ်ခြင်းငှာ စွမ်းနိုင်၏။ ဤသို့ ဆင်ခြင်ရာဝယ် စျာန်အင်္ဂါ အသီးအသီးကို ဆင်ခြင်သော ဝီထိတစ်ခုနှင့် တစ်ခု အကြားဝယ် ဘဝင်အပို များစွာ မဖြစ်တော့ဘဲ မဖြစ်လျှင် မပြီးနိုင်သော ဘဝင်္ဂစလန ဘဝင်္ဂုပစ္ဆေဒလောက်သာ ဖြစ်တော့၏။ စျာန်အင်္ဂါကို ဆင်ခြင်မှု၌ ဤမျှလောက် လျင်မြန်ထက်မြက်သော စွမ်းရည်သတ္တိရှိသည့်အခါ ထိုယောဂါဝစရပုဂ္ဂိုလ်အား အာဝဇ္ဇနဝသီသည် ပြီးစီး ပြည့်စုံသည် မည်ပေသည်။

အထွတ်အထိပ်သို့ ရောက်နေသော ဘဝင်နှစ်ကြိမ် ခြား၍ လေးကြိမ်သော ပစ္စဝေက္ခဏာဇောရှိသော ဤဆိုအပ်ခဲ့ပြီးသော အာဝဇ္ဇနဝသီကိုကား မြတ်စွာဘုရား၏ ရေမီးအစုံ စသော တန်ခိုး ပြာဋိဟာကို ပြတော်မူရာအခါ၌ ရရှိအပ်ပေသည်။ ဘုရားရှင်မှ တစ်ပါးသော အရှင်သာရိပုတ္တရာ စသည့် သူတော်စင်တို့အားမူလည်း ဤသို့သဘောရှိသော ထထကြွကြွ အလွန်ကြောင့်ကြပြု၍ အာဝဇ္ဇနဝသီကို ဖြစ်စေသော ကာလ၌ ရရှိနိုင်ပေသည်။ ဘုရားရှင်မှတစ်ပါးသော သာဝကတို့၏ ထိုအာဝဇ္ဇနဝသီသည်လည်း အလွန်တိုတောင်းလှ၏၊ နည်းပါးသော အချိန်ကာလ ရှိ၏၊ ဘုရားရှင်၏ ရေမီး အစုံ အစုံစသော တန်ခိုး ပြာဋိဟာကို ပြတော်မူရာအခါ၌ကဲ့သို့ အလွန်ရှည်ကြာသော အစဉ်ရှိသည်ကား မဟုတ်ပါပေ၊ ထိုကြောင့် ထိုရေမီး အစုံ အစုံ စသော တန်ခိုးပြာဋိဟာကို သာဝကတို့နှင့် မဆက်ဆံဟူ၍ မိန့်ဆိုတော်မူအပ်ပေသည်။ ဘဝင် နှစ်ကြိမ် ခြားခြင်းရှိသော လေးကြိမ်သော ဇောရှိသော ဤဆိုအပ်ပြီးသော အာဝဇ္ဇနဝသီထက် အထူးသဖြင့် လျင်မြန်သော အာဝဇ္ဇနဝသီ မည်သည်ကား လောက၌ မရှိကောင်းတော့ပေ။ ထိုမျှလောက် မမြန်ဘဲ ဘဝင်အနည်းငယ် အပိုခြား၍ ဆက်ကာဆက်ကာ ဆင်ခြင်နိုင်လျှင်လည်း အာဝဇ္ဇနဝသီဟုပင် ဆိုထိုက်ပါ၏။ ဆိုလိုရင်းကား စျာန်အင်္ဂါကို အမြန်ဆုံး ဆင်ခြင်နိုင်သော မနောဒွါရာဝဇ္ဇန်း၏ သတ္တိကိုပင် အာဝဇ္ဇနဝသီဘော်ဟု ဆိုလိုသည်။

(ဝိသုဒ္ဓိ-၁-၁၄၉-၁၅၀။ မဟာဋီ-၁-၁၇၈-၁၇၉။ သင်္ဂြိုဟ်ဘာသာဋီကာ-၅၆၅-၅၆၆။)

## ၂။ သမာပဇ္ဇနဝသီ

ပထမဈာန်ကို အကြင် အကြင် အလိုရှိရာ အရပ်၌ အကြင် အကြင် အလိုရှိတိုင်း အကြင် အကြင် အလိုရှိသမျှ ကာလပတ်လုံး ဝင်စားနိုင်၏၊ ဝင်စားခြင်း၏ နှေးဖြည်းသည်၏ အဖြစ်သည် မရှိအံ့၊ ဤသို့ တတ်စွမ်းနိုင်လတ်သော် သမာပဇ္ဇနဝသီ မည်၏။

ဈာန်ကို ဝင်စားလိုသောဆန္ဒ ဖြစ်ပေါ်လာလျှင် ဖြစ်ပေါ်ပြီးနောက် ဘဝင်အပို မကျတော့ဘဲ ဘဝင်္ဂစလန, ဘဝင်္ဂုပစ္ဆေဒ, မနောဒွါရာဝဇ္ဇန်း, ပရိကံ, ဥပစာ, အနုလုံ, ဂေါတြဘု ဖြစ်၍ အလိုရှိသမျှ ဈာန်ဇောစိတ်များစွာကို ဖြစ်စေနိုင်ခြင်းသည် သမာပဇ္ဇနဝသီ မည်၏။

ဈာန်ကို ရအပ်သည်နှင့် ထပ်တူထပ်မျှ ယှဉ်ဖက် သမ္ပယုတ်တရားနှင့် တကွသော ဈာန်သို့ ကောင်းစွာ ရောက်ရှိနေခြင်းသည် သမာပဇ္ဇန = ဈာန်ကို ဝင်စားခြင်း မည်၏၊ ဈာန်နှင့် ပြည့်စုံနေသည်၏ အဖြစ်ကို ဆိုလိုပေသည်။

အရှင်မဟာမောဂ္ဂလ္လာန် ကိုယ်တော်မြတ်ကြီး၏ နန္ဒောပနန္ဒ နဂါးမင်းကို ဆုံးမရာအခါ၌ကဲ့သို့ ဈာန်ကို ဝင်စားခြင်းငှာ အလိုရှိသောဆန္ဒ ဖြစ်ပေါ်ပြီးသည်၏ အခြားမဲ့၌ ဘဝင်္ဂစလန ဘဝင်္ဂုပစ္ဆေဒ ဟူသော နှစ်ချက်သော ဘဝင်ဖြစ်ကုန်လတ်သော် ဘဝင်အယဉ်ကို ဖြတ်ပြီးနောက် ဖြစ်ပေါ်လာသော မနောဒွါရာဝဇ္ဇန်း၏ အခြားမဲ့၌ လျင်မြန်စွာ ဈာန်ကို ဝင်စားခြင်းငှာ စွမ်းနိုင်သည်၏အဖြစ်သည် သမာပဇ္ဇနဝသီ မည်၏။ ဤကား တန်ခိုးပြရာကာလ စသည်၌ အရေးတကြီး ဝင်စားနိုင်သော အလွန်ထက်မြက်သူ ဉာဏ်ကြီးရှင်တို့၏ စွမ်းအင်သတ္တိထူးကြီး ပေတည်း။ ထိုမျှလောက် မမြန်ဘဲ ဘဝင်အပို အနည်းငယ် ကျသော်လည်း သမာပဇ္ဇနဝသီဟု ဆိုထိုက်သည် သာတည်း။ (ဝိသုဒ္ဓိ-၁-၁၄၉-၁၅၀။ မဟာဋီ-၁-၁၇၉။ သဂြိုဟ်ဘာသာဋီကာ-၅၆၆။)

## လျင်မြန်မှု စွမ်းအင်

လျင်မြန်မှု စွမ်းအင်ဟူရာဝယ် ဈာန်ကို ဝင်စားခြင်းငှာ အလိုရှိသည်၏ အခြားမဲ့၌ ဘဝင်္ဂစလန ဘဝင်္ဂုပစ္ဆေဒ အမည်ရသော ဘဝင်နှစ်ကြိမ်တို့သည် ဖြစ်ကုန်ပြီးလတ်သော် ဘဝင်ကို ဖြတ်၍ ဖြစ်ပေါ်လာသော မနောဒွါရာဝဇ္ဇန်း၏ အခြားမဲ့၌ ဈာန်ဇောအစဉ်ကို ဖြစ်စေခြင်း = ဈာန်ကို ဝင်စားခြင်းသည် လျင်မြန်စွာ ဈာန်ကို ဝင်စားခြင်းငှာ စွမ်းနိုင်သည်၏အဖြစ် မည်၏။ အထွတ်အထိပ်သို့ ရောက်သော ဤ သမာပဇ္ဇနဝသီကိုလည်း ဘုရားရှင်၏ တရားတော်ကို ဟောတော်မူရာအခါ၌ ရအပ်ပေသည်။ ယင်းဝသီကိုပင် ရည်ရွယ်တော်မူ၍ ဤသို့ ဟောကြားတော်မူ၏။ —

"အဂ္ဂိဝေဿန အနွယ်၌ ဖြစ်သော တကာတော် သစ္စကပရိဗိုဇ် . . . ထိုသို့ တရားဟောနေသော ငါဘုရားသည် ထိုတရားစကား၏ အဆုံး၌ပင်လျှင် ငါဘုရားရှင်၏ အခါခပ်သိမ်း နေထိုင်ကြောင်းဖြစ်သော ထိုရှေးဖြစ်သော အရဟတ္တဖိုလ်သမာဓိ၏ အာရုံဖြစ်သော နိဗ္ဗာန်၌သာလျှင် စိတ်ကို ကောင်းစွာ တည်စေ၏၊ ကောင်းစွာ နေစေ၏၊ အာရုံတစ်ခုတည်း ရှိမှုကို ပြု၏၊ ကောင်းစွာ အညီအညွတ်ထား၏၊ ယင်းသို့သော ထားခြင်းဖြင့် အမြဲတမ်းလိုပင် နေထိုင်ပါ၏။" (မ-၁-၃၁၆။)

ဤဘုရားရှင်၏ သမာပဇ္ဇနဝသီထက် သာလွန်လျင်မြန်သော သမာပဇ္ဇနဝသီ မည်သည် မရှိပေ။ တစ်ချိန် အရှင်သာရိပုတ္တရာ မထေရ်မြတ်ကြီးသည် လသာသော ညတစ်ညဝယ် ကပေါတချောက်၌ သီတင်းသုံးတော်မူလျက် သမာပတ်ကို ဝင်စားနေတော်မူ၏။ ထိုအခါဝယ် ခေါင်းရိတ်ပြီးစ ဖြစ်သဖြင့် ခေါင်းပြောင်လျက်ရှိသော

အရှင်သာရိပုတ္တရာ ကိုယ်တော်မြတ်၏ ဦးထိပ်ထက်၌ နန္ဒဘီလူးသည် တောင်ထွတ်ကြီးကိုသော်လည်း ပြိုကွဲစေခြင်းငှာ စွမ်းနိုင်သော ပုတ်ခတ်ခြင်းကို ပေးခဲ့၏။ "သမာပတ်မှ ထသည်နှင့် ညီမျှသောကာလ၌ ထလျှင်ထခြင်း ထိုနန္ဒဘီလူးက ပုတ်ခတ်ခြင်းကို ပေးအပ်၏"ဟု သုတ္တန်ဆောင် မထေရ်တို့ကား ဆိုတော်မူကြကုန်၏။ ဤအရှင်သာရိပုတ္တရာ၏ သမာပဇ္ဇနဝသီသည်လည်း ဤအရာ၌ ထုတ်ပြထိုက်သော သာဓကတစ်ရပ်ပင် ဖြစ်ပေသည်။ (မဟာဋီ-၁-၁၇၉။)

## ၃။ အဓိဋ္ဌာနဝသီ

လက်ဖျစ် တစ်တွက် အတိုင်းအရှည်ရှိသော ခဏပတ်လုံးလည်းကောင်း, လက်ဖျစ်ဆယ်တွက် အတိုင်းအရှည်ရှိသော ခဏပတ်လုံးလည်းကောင်း, တစ်နာရီ, တစ်နံနက်, တစ်ရက် စသည်ဖြင့် မိမိ အလိုရှိသမျှ ကာလပတ်လုံးလည်းကောင်း ပိုလည်း မပိုရ, လိုလည်း မလိုရအောင် ဝင်စားလိုရာ အချိန်စေ့အောင် ရေကာတာရိုးသည် ရေကို တားထားသကဲ့သို့ ဘဝင်အယဉ်ကို တားဆီး၍ ဈာန်ဇောစိတ်အစဉ်ကို တည်တံ့အောင် ထားခြင်းငှာ စွမ်းနိုင်သော သတ္တိသည် **အဓိဋ္ဌာနဝသီ** မည်၏။ (ဝိသုဒ္ဓိ-၁-၁၅၀။ မဟာဋီ-၁-၁၈၀။)

## ၄။ ဝုဋ္ဌာနဝသီ

အလားတူပင် လက်ဖျစ်တစ်တွက် အတိုင်းအရှည်ရှိသော ကာလပတ်လုံးလည်းကောင်း, လက်ဖျစ်ဆယ်တွက် အတိုင်းရှည်ရှိသော ကာလပတ်လုံးလည်းကောင်း တစ်နာရီ, တစ်နံနက်, တစ်ရက် စသည်ဖြင့် မိမိတို့ အလိုရှိသမျှ ကာလပတ်လုံးလည်းကောင်း တစ်ခဏမျှ ခပ်တိုတို ဝင်စားလိုလျှင် ခပ်တိုတို ဝင်စား၍ ကြာရှည်စွာ ဝင်စားလိုလျှင် ကြာရှည်စွာ ဝင်စား၍ ရည်မှန်းထားသော အချိန်ကာလကို ပိုလည်း မပိုရ လိုလည်း မလိုရအောင် ဈာန်ဇောစိတ်အစဉ်မှ လျင်မြန်စွာ ထခြင်းငှာ စွမ်းနိုင်သော သတ္တိသည် **ဝုဋ္ဌာနဝသီ** မည်၏။

ဈာန်စိတ်ချည်း ဆက်၍ ဖြစ်နေခြင်းကို ဈာန်ဝင်စားသည်ဟု ခေါ်၍ ဈာန်ဇော စိတ်အစဉ် ပြတ်၍ ဘဝင်စိတ် ဖြစ်ပေါ်လာမှုကို ဈာန်မှ ထသည်ဟု ခေါ်၏။ ဤနှစ်ပါးသော ဝသီဘော်တို့တွင် ဤမျှလောက်သော ခဏပတ်လုံးသာလျှင် ဈာန်ကို (= ဈာန်ဇောစိတ်အစဉ်ကို ) ထားအံ့ တည်စေအံ့ဟု ဈာန်မဝင်စားမီ ရှေး၌ ဖြစ်သော ပရိကံ၏ အစွမ်းဖြင့် အဓိဋ္ဌာန် = ပရိကံပြုသည့်အတိုင်း တည်စေခြင်း၌ စွမ်းနိုင်သည်၏ အဖြစ်သည် အဓိဋ္ဌာနဝသီ မည်သကဲ့သို့ အလားတူပင် ဤမျှလောက်သော ခဏပတ်လုံးသာလျှင် ဈာန်နှင့် ပြည့်စုံသည်ဖြစ်၍ ဈာန်မှ ထအံ့ဟု ဈာန်မဝင်စားမီ ရှေး၌ ဖြစ်သော ပရိကံ၏ အစွမ်းဖြင့် ဈာန်မှ ထခြင်း၌ စွမ်းနိုင်သည်၏ အဖြစ်သည် ဝုဋ္ဌာနဝသီ မည်၏ဟု သိရှိပါလေ။ ထိုအဓိဋ္ဌာနဝသီ ဝုဋ္ဌာနဝသီ နှစ်ပါးကို ထင်ရှားပြခြင်းငှာ အရှင်ဗုဒ္ဓရက္ခိတမထေရ်၏ ဝတ္ထုကို ဆိုခြင်းငှာ သင့်လှပေ၏။

ထို အရှင်ဗုဒ္ဓရက္ခိတသည် ပဉ္စင်းဖြစ်သည်မှ ရှစ်ဝါအရတွင် အရှင်မဟာမဟိန္ဒမထေရ် ကောင်းကင်မှ သက်ကျရာ သရက်ပင်ရောက်သော ကုန်း၌ မဟာရောဟဏဂုတ္တမထေရ်မြတ်ကြီးအား သူနာပြုစုရန် အလို့ငှာ ကြွရောက်တော်မူလာကြကုန်သော သုံးသောင်းကုန်သော တန်ခိုးရှိသော အရှင်တို့၏ အလယ်၌ နေလျက် ရောဟဏဂုတ္တမထေရ်မြတ်ကြီးအား ယာဂု ဆက်ကပ်လာသော အလုပ်အကျွေး နဂါးမင်းကို သုတ်ယူအံ့ဟူသော ရည်ရွယ်ချက်ဖြင့် ကောင်းကင်မှ ဆင်းသက်ပျံသန်း ပြေးလာသော ဂဠုန်မင်းကို မြင်၍ ထိုခဏ၌ပင်လျှင် တောင်ကို ဖန်ဆင်း၍ နဂါးမင်းကို မောင်း၌ကိုင်၍ ထို မိမိ ဖန်ဆင်းထားသော တောင်ခေါင်းအတွင်းသို့ ဝင်သွားတော်မူ၏။ ကောင်းကင်မှ ပြေးဆင်းလာသော ဂဠုန်မင်းသည် ထို ဖန်ဆင်းထားသော တောင်၌ ရင်ဘတ်ဖြင့် ပုတ်ခတ်ခြင်းကို ပေးပြီး၍ (ရင်ဘတ်နှင့် တောင်ကြီးကို ဆောင့်မိလျက်) ထွက်ပြေးရလေ၏။ ထိုအခါ မဟာ

ရောဟဏဂုတ္တ မထေရ်ကြီးက "ငါ့ရှင်တို့ . . . ဗုဒ္ဓရက္ခိတသည် အကယ်၍ မရှိအံ့၊ ငါတို့အားလုံးသည် ကဲ့ရဲ့ ထိုက်သူတို့ ဖြစ်ကြရကုန်အံ့"- ဟု ဆိုတော်မူ၏။ (ဝိသုဒ္ဓိ-၁-၁၅၀။)

အကြင် အဘိညာဏ်စိတ်ဖြင့် တောင်ကို ဖန်ဆင်းလေရာ၏၊ ထို အဘိညာဏ်စိတ်သည်ကား တစ်ကြိမ် သည်သာလျှင် ဖြစ်သည်ကား မှန်၏၊ သို့သော်လည်း အဘိညာဏ်၏ အခြေပါဒက ဖြစ်သော ဈာန်ကိုသာ၍ လျင်မြန်စွာ ထားခြင်းကိုလည်းကောင်း, ထိုဈာန်မှ ထခြင်းကိုလည်းကောင်း ဤအရာ၌ သက်သေအဖြစ် ဤ ဝတ္ထုကို ထုတ်ဆောင်ပြခြင်း ဖြစ်၏ဟု မှတ်ပါ။ ထိုကဲ့သို့ ဈာန်စိတ်ကို လျင်မြန်စွာ ထားနိုင်သော အဓိဋ္ဌာနဝသီ, ဈာန်မှ လျင်မြန်စွာ ထနိုင်သော ဝုဋ္ဌာနဝသီဟူသော ဝသီဘော် နှစ်ပါးကို အထူးနိုင်နင်းတော်မူသော အရှင် ဗုဒ္ဓရက္ခိတသာ မရှိခဲ့ပါမူ သုံးသောင်း အတိုင်းအရှည် ရှိကုန်သော ဤမျှလောက်ကုန်သော တန်ခိုးရှင်တို့သည် အလုပ်အကျွေးတစ်ဦး ဖြစ်သော နဂါးကို ဂဠုန်ဘေးရန်မှ စောင့်ရှောက်ခြင်းငှာ မစွမ်းနိုင်ကုန်ဟု ကဲ့ရဲ့ထိုက်သည် ဖြစ်ကုန်ရာ၏။ (မဟာဋီ-၁-၁၈၀။)

## ၅။ ပစ္စဝေက္ခဏာဝသီ

ပစ္စဝေက္ခဏာဝသီ ပန အာဝဇ္ဇနဝသိယာ ဧဝ ဝုတ္တာ။ ပစ္စဝေက္ခဏဇဝနာနေဝ ဟိ တတ္ထ အာဝဇ္ဇနာ-နန္တရာနီတိ။ (ဝိသုဒ္ဓိ-၁-၁၅၀။)

**အာဝဇ္ဇနာနန္တရာနီ**တိ အာဝဇ္ဇနဝသီဘာဝါယ ယထာက္ကမံ ဝိတက္ကာဒီနံ ဈာနင်္ဂါနံ အာဝဇ္ဇနာယ ပရတော ယာနိ ဇဝနာနိ ပဝတ္တာနိ၊ တာနိ တေသံ ပစ္စဝေက္ခဏာနိ။ ယဒဂ္ဂေန အာဝဇ္ဇနဝသီ သိဒ္ဓိ၊ တဒဂ္ဂေန ပစ္စဝေက္ခ-ဏာဝသီ သိဒ္ဓိ ဝေဒိတဗ္ဗာ။ (မဟာဋီ-၁-၁၈၀။)

ဈာန်အင်္ဂါတို့ကို ဆင်ခြင်တတ်သော မနောဒွါရာဝဇ္ဇန်း၏ နောက်၌ ပစ္စဝေက္ခဏာဇောများ ဆက်၍ စော၏။ ယင်း ပစ္စဝေက္ခဏာဇောတို့သည်လည်း ဈာန်အင်္ဂါတို့ကိုပင် ဆက်လက်၍ ဆင်ခြင်ကြ၏။ ဈာန်အင်္ဂါတို့ကို ဆင်ခြင်တတ်သော ယင်း ပစ္စဝေက္ခဏာဇောတို့၏ စွမ်းအင်သတ္တိကို ပစ္စဝေက္ခဏာဝသီဟု ခေါ်ဆိုပေသည်။ ဈာန်အင်္ဂါတို့ကို ဆင်ခြင်သော ပစ္စဝေက္ခဏာဝီထိတို့၏ တစ်ဝီထိနှင့် တစ်ဝီထိ အကြားဝယ် ဘဝင်များစွာ မခြားဘဲ ဆက်ကာ ဆက်ကာ ဆင်ခြင်နိုင်သော သတ္တိတည်း။ ထိုကြောင့် အာဝဇ္ဇနဝသီဘော် ပြီးစီး အောင်မြင်လျှင် ပစ္စဝေက္ခဏာဝသီဘော်လည်း ပြီးစီးအောင်မြင်တော့သည်သာဟု သိရှိပါလေ။ ဈာန်အင်္ဂါတို့ကို အမြန်ဆုံး ဆင်ခြင်တတ်သော မနောဒွါရာဝဇ္ဇန်း၏ စွမ်းအင်သတ္တိကို အာဝဇ္ဇနဝသီဟုလည်းကောင်း, ဈာန်အင်္ဂါတို့ကို အမြန်ဆုံး ဆင်ခြင်တတ်သော ပစ္စဝေက္ခဏာဇော၏ စွမ်းအင်သတ္တိကို ပစ္စဝေက္ခဏာဝသီဟုလည်းကောင်း နှစ်မျိုး ခွဲခြား ထားသည်ဟု မှတ်ပါ။ (ဝိသုဒ္ဓိ-၁-၁၅၀။ မဟာဋီ-၁-၁၈၀။)

ကျေးဇူးတော်ရှင် လယ်တီဆရာတော်ဘုရားကြီးကား ကမ္မဋ္ဌာန်းကျမ်းကြီးတွင် —

**"ဈာန်အင်္ဂါတို့ကို ဆင်ခြင်ပြီးလျှင် တစ်ဖန် ဈာန်ကို အလျှင်အမြန် ဝင်စားဖို့ရန် ဈာန်အင်္ဂါတို့ကို ဆင်ခြင်သော ပစ္စဝေက္ခဏာဇောတွေကို ခုနစ်ကြိမ်လောက် များစွာ မဖြစ်စေဘဲ လေးကြိမ် ငါးကြိမ်မျှလောက်သာ ကျစေနိုင်မှုကို ပစ္စဝေက္ခဏာဝသီဟု ခေါ်သည်"** - ဟု ဤသို့ မိန့်ဆိုထားတော်မူပေသည်။

(ကမ္မဋ္ဌာန်းကျမ်းကြီး - ၄၅။)

## ဒုတိယဈာနကထာ

ဤဝသီငါးတန်တို့၌ လေ့ကျက်အပ်ပြီး လေ့လာအပ်ပြီး နိုင်နင်းပြီးသော ဝသီရှိသော ယောဂါဝစရပုဂ္ဂိုလ်သည် နိုင်နိုင်နင်းနင်း လေ့လာထားအပ်ပြီးသော ပထမဈာန်မှ ထ၍ —

"အယံ သမာပတ္တိ အာသန္နနီဝရဏပစ္စတ္ထိကာ, ဝိတက္ကဝိစာရာနံ ဩဠာရိကတ္တာ အင်္ဂဒုဗ္ဗလာ"
(ဝိသုဒ္ဓိ-၁-၁၅၀။)

၁။ ဤပထမဈာန် သမာပတ်သည် နီးကပ်သော နီဝရဏ ရန်သူ ရှိ၏။

၂။ ဝိတက် ဝိစာရတို့၏ ရုန့်ရင်းသည်၏ အဖြစ်ကြောင့် အားနည်းသော ဈာန်အင်္ဂါရှိ၏ဟု ထိုပထမဈာန်၌ အပြစ်ကို မြင်အောင်ကြည့်၍,

၃။ ဒုတိယဈာန်ကို (ပထမဈာန်ထက် ပို၍) ငြိမ်သက်သော တရားဟု နှလုံးသွင်း၍,

၄။ ပထမဈာန်၌ လိုချင်ငဲ့ကွက် တသက်သက် ရှိခြင်းကို ကုန်ခန်းစေ၍ —

ဒုတိယဈာန်ကို ရရှိခြင်းငှာ ကြိုးစားအားထုတ်ခြင်း အာနာပါနဿတိသမာဓိဘာဝနာမှုကို ပြုလုပ်အပ်၏။
(ဝိသုဒ္ဓိ-၁-၁၅၀။)

**နီဝရဏရန်သူ** — နီဝရဏရန်သူတို့ကား ပထမဈာန်၏ ဥပစာရသမာဓိအခိုက်၌ ဝိက္ခမ္ဘန = ခွာထားသည့် အနေဖြင့် ကွာကျသွားကြ၏။ အာနာပါနပဋိဘာဂနိမိတ်ကို အာရုံပြု၍ အာနာပါနဿတိသမာဓိကို ထူထောင်လာရာ ပထမဈာန်သို့ ဆိုက်လုနီးဖြစ်သည့် ဥပစာရသမာဓိနယ်မြေသို့ ရောက်ရှိပါမှ နီဝရဏတရားတို့ ငြိမ်းအေး သွားကြခြင်း ဖြစ်၏။ ပထမဈာန်နှင့် ပထမဈာန်၏ ဥပစာရသမာဓိကား အလွန်နီးကပ်လျက် ရှိသဖြင့် ဥပစာရသမာဓိသို့ ဆိုက်ပါမှ ကွာကျသွားသော နီဝရဏရန်သူနှင့် နီးကပ်လျက်ပင် ရှိပေသည်။

**ဝိတက်-ဝိစာရ** — ဝိတက်ကား အာနာပါနပဋိဘာဂနိမိတ် အာရုံပေါ်သို့ ဘာဝနာစိတ်ကို ရှေးရှု တင်ပေးခြင်းသဘော, ဝိစာရကား အာနာပါနပဋိဘာဂနိမိတ်အာရုံကို ထပ်ကာ ထပ်ကာ သုံးသပ် ဆင်ခြင်ခြင်းသဘော ဖြစ်သဖြင့် ငြိမ်သက်မှု သမာဓိစွမ်းအင်ကို အလိုရှိသော ယောဂါဝစရပုဂ္ဂိုလ်အဖို့ ထိုအာနာပါနပဋိဘာဂနိမိတ် အာရုံပေါ်သို့ ဘာဝနာစိတ်ကို ရှေးရှုတင်ပေးရခြင်း ထိုအာရုံကို သုံးသပ်နေရခြင်းတို့မှာ ရုန့်ရင်း ကြမ်းတမ်းသော စိတ်အမူအရာ တစ်မျိုး ဖြစ်နေ၏။ အကယ်၍ ဘာဝနာစိတ်ကို ထိုကဲ့သို့ တင်မပေးရဘဲ ဘာဝနာအာရုံကို ထိုကဲ့သို့ မသုံးသပ်ရဘဲ ဘာဝနာအာရုံ၌ ဘာဝနာစိတ်သည် ငြိမ်ဝပ်စွာ ကပ်၍ တည်နေပါက ပို၍ ကောင်းမည်ဟု နှလုံးပိုက်၍ ဝိတက် ဝိစာရတို့၏ ရုန့်ရင်းသည်၏ အဖြစ်ကြောင့် အားနည်းသော ဈာန်အင်္ဂါရှိသော ပထမဈာန်ကို အလိုမရှိသော စိတ်ထား, ပို၍ငြိမ်သက်သော ဒုတိယဈာန်ကို အလိုရှိသော စိတ်ထားဖြင့် အာနာပါနပဋိဘာဂနိမိတ် အာရုံကိုပင် အာရုံယူ၍ အာနာပါနဿတိသမာဓိဘာဝနာကို ဆက်လက်ပွားများရမည်ဟု ဆိုလိုပေသည်။

**ဒုတိယဈာန်သို့** — ထိုသို့ အားထုတ်လတ်သော် ထိုယောဂါဝစရပုဂ္ဂိုလ်အား အကြင်အခါ၌ ပထမဈာန်မှ ထ၍ သတိနှင့် ပြည့်စုံသည်ဖြစ်၍ သမ္ပဇဉ်ဉာဏ်နှင့် ပြည့်စုံသည်ဖြစ်၍ ဈာန်အင်္ဂါတို့ကို ဉာဏ်ဖြင့် ရှေးရှုသက်၍ ဆင်ခြင်စဉ် ဝိတက် ဝိစာရတို့သည် ရုန့်ရင်းကြမ်းတမ်းသောအားဖြင့် ထင်လာကုန်၏။ ပီတိ သုခ စိတ္တေကဂ္ဂတာတို့သည် ငြိမ်သက်သော သဘောအားဖြင့် ထင်လာ၏။ ထိုအခါ၌ ရုန့်ရင်းကြမ်းတမ်းသော ဈာန်အင်္ဂါကို ပယ်ခြင်းငှာလည်းကောင်း, ငြိမ်သက်သော ဈာန်အင်္ဂါကို ရရှိခြင်းငှာလည်းကောင်း ထိုအာနာပါနပဋိဘာဂနိမိတ် အာရုံကို ပင်လျှင် အဖန်ဖန် အထပ်ထပ် နှလုံးသွင်းနေသော ထိုယောဂါဝစရပုဂ္ဂိုလ်၏ သန္တာန်ဝယ် - "ယခုအခါ၌ ဒုတိယဈာန်သည် ဖြစ်ပေတော့လတ္တံ့"ဟု ပြောဆိုသင့်သော ဇောဝါရ၌ ဘဝင်အယဉ်ကို ဖြတ်၍ ထိုအာနာပါနပဋိဘာဂ

နိမိတ် အာရုံကိုပင် အာရုံပြု၍ အာနာပါနပဋိဘာဂနိမိတ်ကို ဆင်ခြင်တတ်သော မနောဒွါရာဝဇ္ဇန်းသည် ဖြစ်ပေါ် လာ၏။ ထိုနောင် ထို အာနာပါနပဋိဘာဂနိမိတ်အာရုံ၌ပင်လျှင် ဣန္ဒြေ ထက်မြက်သူအား လေးကြိမ်မူလည်း ဖြစ်ကုန်သော ဣန္ဒြေ မထက်လွန်းသူအား ငါးကြိမ်မူလည်း ဖြစ်ကုန်သော ဇောတို့သည် စောကုန်၏။ ယင်း လေးကြိမ် ငါးကြိမ်သော ဇောတို့တွင် နောက်ဆုံး၌ဖြစ်သော တစ်ခုသော လေးကြိမ်မြောက်ဇောသည် သို့မဟုတ် ငါးကြိမ်မြောက်ဇောသည် ဒုတိယစျာန်ရှိသော ရူပါဝစရစျာန်ဇောတည်း။ အဆုံးဇောမှ ကြွင်းကုန်သော သုံးကြိမ် လေးကြိမ်သော ဇောတို့သည်ကား ပထမစျာန်၌ ဆိုအပ်ခဲ့ပြီးသည့်အတိုင်း ပရိကံ ဥပစာ အနုလုံ ဂေါတြဘု ဟူသော သို့မဟုတ် ဥပစာ အနုလုံ ဂေါတြဘုဟူသော အမည်ထူး ရှိသည်သာလျှင် ဖြစ်ကုန်သော ကာမာဝစရ ဇောတို့ ဖြစ်ကြကုန်၏။

ဤမျှလောက်သော ဘာဝနာအစဉ်ဖြင့် ဤယောဂါဝစရပုဂ္ဂိုလ်သည် ဝိတက် ဝိစာရတို့၏ ချုပ်ငြိမ်းခြင်း ကြောင့် မိမိတို့၏ ကိုယ်တွင်းအဇ္ဈတ္တသန္တာန်၌ ဖြစ်သော စိတ်ကို ကြည်လင်စေတတ်သော စိတ်၏ မြတ်သော တည်ကြည်မှု သမာဓိကို ပွားစေတတ်သော ဝိတက် မရှိသော ဝိစာရ မရှိသော ပထမစျာန်သမာဓိကြောင့် ဖြစ် သော (သို့မဟုတ် မိမိနှင့် အတူယှဉ်ဖက် သမ္ပယုတ်သမာဓိကြောင့် ဖြစ်သော) နှစ်သက်ခြင်း ပီတိ, ချမ်းသာခြင်း သုခရှိသော ဒုတိယစျာန်ကို ပြည့်စုံစေ၍ (ဒုတိယစျာန်သို့ ကပ်ရောက်၍) နေထိုင်ပေ၏။ ဤသို့လျှင် ဤ ယောဂါ ဝစရပုဂ္ဂိုလ်သည် ဝိတက် ဝိစာရဟူသော ပယ်အပ်သော နှစ်ပါးသော စျာန်အင်္ဂါရှိသော, ပီတိ သုခ ဧကဂ္ဂတာ ဟူသော သုံးပါးသော စျာန်အင်္ဂါနှင့် ပြည့်စုံသော, သုံးပါးအပြားရှိသော ကောင်းခြင်းဂုဏ်ရှိသော, ဆယ်ပါးသော လက္ခဏာနှင့် ပြည့်စုံသော အာနာပါနပဋိဘာဂနိမိတ်လျှင် အာရုံရှိသော ဒုတိယစျာန်ကို ရရှိအပ်သည် ဖြစ်ပေ သတည်း။ (ဝိသုဒ္ဓိ-၁-၁၅၀-၁၅၁။)

## ဝိတက် ဝိစာရ ချုပ်ငြိမ်းမှု

ပရမတ္ထဓမ္မသဘာဝတို့ကား ဖြစ်ပြီးလျှင် ပျက်ရိုးဓမ္မတာ ရှိသောကြောင့် ပထမစျာန်အတွင်းရှိ ပရမတ္ထဓမ္မ တို့သည် ပထမစျာန်အတွင်း၌ပင် ပျက်သွားကြ၏၊ ဒုတိယစျာန်သို့ တိုင်အောင် ဆက်လက်၍ ဖြစ်နေကြသည် တည်တံ့ခိုင်မြဲနေကြသည်ကား မဟုတ်ကုန်။ သို့အတွက် ထိုဒုတိယစျာန်၌ အာနာပါနပဋိဘာဂနိမိတ်ကို အာရုံ ယူ၍ ဖြစ်ပေါ်လာကြကုန်သော ပထမစျာန် နာမ်တရား (၃၄) ဟူသော နာမ်တရားအားလုံးတို့သည်ပင် အကယ် ၍ကား မရှိကြလေကုန်။ မှန်ပေသည် — ပထမစျာန်အတွင်း၌ တည်ရှိကုန်သော ဖဿ စသော (၃၄)မျိုးသော နာမ်တရားတို့ကား တစ်ပါးတခြားတည်း။ ဒုတိယစျာန်အတွင်း၌ တည်ရှိကုန်သော (၃၂)လုံးသော ဖဿ စသော တရားတို့ကား သီးသန့် တစ်ပါးတခြားသာတည်း၊ စိတ္တက္ခဏချင်း မတူကြသဖြင့် သီးသန့်စီ ဖြစ်ကြကုန်၏။ ဒုတိယစျာန်ဖြစ်ခိုက်၌ ပထမစျာန်နာမ်တရားတို့သည် ဥပါဒ်-ဌီ-ဘင် = ဖြစ်-တည်-ပျက် သဘောအရ သက်တမ်း စေ့၍ ချုပ်ပျက်သွားကြပြီး ဖြစ်သဖြင့် ထိုသို့ပင် ထင်ရှားမရှိသော်လည်း ရုန့်ရင်း ရုန့်ရင်းသော စျာန်အင်္ဂါကို ကျော်လွှား လွန်မြောက်သွားခြင်းကြောင့် ပထမစျာန်မှ တစ်ပါးကုန်သော ဒုတိယစျာန် စသည်တို့ကို ရရှိခြင်း သည် ဖြစ်ပေါ်လာနိုင်၏ဟူသော ဤကဲ့သို့သော အနက်သဘောကို ထင်ရှားပြခြင်းငှာ — **ဝိတက္ကဝိစာရာနံ ဝူပသမာ = ဝိတက် ဝိစာရတို့၏ ချုပ်ငြိမ်းခြင်းကြောင့်** - ဟူ၍ ဤသို့ ဘုရားရှင် ဟောကြားတော်မူအပ်ပေသည်။ ဝိတက် ဝိစာရနှင့် အတူတကွ ဖြစ်သော တရားတို့၏လည်း ချုပ်ငြိမ်းခြင်းကြောင့်ဟူ၍ ဟောတော် မမူအပ်ဟု သိရှိပါလေ။ (ဝိသုဒ္ဓိ-၁-၁၅၁။)

## သဒ္ဓါ နှင့် သမာဓိ

ဤဒုတိယဈာန်၌ – အဇ္ဈတ္တံ သမ္ပသာဒနံ စေတသော ဧကောဒိဘာဝံ (မ-၁-၈၉။) - စသည်ဖြင့် မိမိ၏ ကိုယ်တွင်းအဇ္ဈတ္တသန္တာန်၌ စိတ်ကို ကြည်လင်စေတတ်သော သဒ္ဓါတရားနှင့် မွန်မြတ်သော စိတ်တည်ကြည်မှု သမာဓိ ရှိမှုကို အထူးပြု၍ ဘုရားရှင် ဟောကြားထားတော်မူခဲ့၏။

ဤအရာ၌ မေးမြန်းဖွယ်ကား ဤသို့ ဖြစ်၏။ ဤကဲ့သို့သော စိတ်ကို ကြည်လင်စေတတ်သော သဒ္ဓါတရားနှင့် ဧကောဒိ အမည်ရသော မွန်မြတ်သော စိတ်တည်ကြည်မှု သမာဓိတရားသည် ပထမဈာန်၌လည်း ရှိသည်ပင် မဟုတ်ပါလား၊ အဘယ်ကြောင့် ဤဒုတိယဈာန်ကိုသာလျှင် သမ္ပသာဒန = စိတ်ကို ကြည်လင်စေတတ်သော သဒ္ဓါတရား ရှိ၏ဟူ၍လည်းကောင်း, စေတသော ဧကောဒိဘာဝ = မွန်မြတ်သော စိတ်တည်ကြည်မှု သမာဓိကို တိုးပွားစေတတ်၏ဟူ၍လည်းကောင်း ဟောကြားတော်မူအပ်ပါသနည်းဟု မေးမြန်းဖွယ် ရှိ၏။ အဖြေမှာ ဤသို့ ဖြစ်၏။

ဤပထမဈာန်သည် ဝိတက် ဝိစာရတို့၏ လှုပ်ချောက်ချားခြင်း လောက်လက်ခတ်ခြင်းကြောင့် လှိုင်းတံပိုးငယ် လှိုင်းတံပိုးကြီးတို့ဖြင့် ရောပွမ်းသော ရေကဲ့သို့ ကောင်းစွာ ကြည်လင်သည်ကား မဖြစ်သေး။ ထိုကြောင့် ပထမဈာန်၌ သဒ္ဓါတရား ရှိသော်လည်း သမ္ပသာဒန = စိတ်ကို ကြည်လင်စေတတ်၏ဟူ၍ ဘုရားရှင် ဟောတော် မမူအပ်ပေ။ ဆိုအပ်ပြီးသော စိတ်၏ ကောင်းစွာ မကြည်သည်၏ အဖြစ်ဟူသော အကြောင်းကြောင့် လည်းကောင်း, ဆိုအပ်ပြီးသည်သာဖြစ်သော ဝိတက် ဝိစာရတို့၏ လောက်လက်ခတ်ခြင်း ချောက်ချားခြင်း ဟူသော အကြောင်းကြောင့်လည်းကောင်း သဒ္ဓါနှင့် ပညာတို့၏ ညီမျှမှု ဝီရိယ၏ သမာဓိနှင့် ညီမျှမှု ရှိခဲ့သော် (ပျစ်ခွဲသော ရေ၌ ငါးကဲ့သို့ ) ဤပထမဈာန်၌ သမာဓိသည်လည်း ကောင်းစွာ ထင်ရှားသည် မဖြစ်၊ ထိုကြောင့် ဧကောဒိဘာဝ = မွန်မြတ်သော စိတ်တည်ကြည်မှု သမာဓိကို တိုးပွားစေတတ်၏ ဟူ၍လည်း ဟောတော်မမူ အပ်ပေ။

အထူးမှာ ဤဒုတိယဈာန်၌ ဝိတက် ဝိစာရတို့၏ ထက်ဝန်းကျင်မှ နှောင့်ယှက်ခြင်း မရှိသည်၏ အဖြစ်ကြောင့် စိတ်ကို ကြည်လင်စေတတ်သော သဒ္ဓါတရားသည် အခွင့်ရလာသည်ဖြစ်၍ အားရှိလာ၏၊ စွမ်းအင် ပြည့်ဝလာ၏၊ အားရှိသော စွမ်းအင်ပြည့်ဝသော သဒ္ဓါဟူသော အဖော်သဟဲကို ရရှိခြင်းကြောင့်ပင်လျှင် သမာဓိ သည်လည်း ထင်ရှားလာ၏၊ ထိုကြောင့် ဤဒုတိယဈာန်ကိုသာလျှင် **သမ္ပသာဒနံ စေတသော ဧကောဒိဘာဝံ** - ဟု မိမိ၏ ကိုယ်တွင်းအဇ္ဈတ္တသန္တာန်၌ စိတ်ကို ကြည်လင်စေတတ်သော သဒ္ဓါတရားနှင့် ဧကောဒိ အမည်ရသော မွန်မြတ်သော စိတ်တည်ကြည်မှု သမာဓိရှိမှုကို အထူးပြု၍ ဘုရားရှင်သည် ဟောကြားတော်မူအပ်ပေသည် — ဟု သိရှိပါလေ။ (ဝိသုဒ္ဓိ-၁-၁၅၂။)

**အဝိတက္ကံ အဝိစာရံ** — ဝိတက် ဝိစာရတို့အပေါ်၌ တွယ်တာတပ်မက်သည့် တဏှာကို စွန့်ပယ်ခြင်းဖြင့် ဝိတက် ဝိစာရတို့ကို ငြိမ်းစေခြင်းကြောင့် ဤဒုတိယဈာန်သည် စိတ်ကို ကြည်လင်စေတတ်၏၊ ဥပစာရသမာဓိ အခိုက်၌ကဲ့သို့ နီဝရဏကိလေသာဟူသော နောက်ကျိခြင်းကို ငြိမ်းစေခြင်းကြောင့် စိတ်ကို ကြည်လင်စေတတ် သည်ကား မဟုတ်၊ ထို့ပြင် ဝိတက် ဝိစာရတို့၏ ချုပ်ငြိမ်းခြင်းကြောင့်ပင်လျှင် ဤဒုတိယဈာန်သည် မွန်မြတ် သော စိတ်တည်ကြည်မှု သမာဓိကို တိုးပွားစေတတ်ခြင်း ဖြစ်၏။ ဥပစာရဈာန်၌ကဲ့သို့ နီဝရဏကိလေသာ အညစ်အကြေးကို ပယ်ခွာခြင်းကြောင့်လည်းကောင်း, ပထမဈာန်၌ကဲ့သို့ ဈာန်အင်္ဂါ ထင်ရှား ဖြစ်ခြင်းကြောင့် လည်းကောင်း ဤဒုတိယဈာန်သည် မွန်မြတ်သော စိတ်တည်ကြည်မှု = သမာဓိကို တိုးပွားစေသည်ကား မဟုတ်၊ ဤသို့လျှင် ဤ - ဝိတက္ကဝိစာရာနံ ဝူပသမာ = ဝိတက် ဝိစာရတို့ကို ငြိမ်းစေခြင်းကြောင့်ဟူသော - ဤစကားသည်

စိတ်ကို ကြည်လင်စေမှုနှင့် မွန်မြတ်သော စိတ်တည်ကြည်မှု သမာဓိကို တိုးပွားစေမှုတို့၏ အကြောင်းကို ထင်ရှား ဖော်ပြသော စကားသာ ဖြစ်၏။

ထိုမှတစ်ပါး ဝိတက် ဝိစာရတို့၏ ငြိမ်းခြင်းကြောင့် ဤဒုတိယဈာန်သည် ဝိတက် မရှိသည် ဝိစာရ မရှိသည် ဖြစ်၏၊ တတိယဈာန် စတုတ္ထဈာန်တို့ကဲ့သို့လည်းကောင်း, စက္ခုဝိညာဏ် စသည်တို့ကဲ့သို့လည်းကောင်း ပင်ကိုယ် သဘောအားဖြင့် မရှိခြင်းကြောင့် ဝိတက် မရှိသည် ဝိစာရလည်း မရှိသည် မဟုတ်၊ ဤသို့လျှင် ဝိတက် မရှိမှု ဝိစာရ မရှိမှု၏ အကြောင်းကို ပြတတ်သည်လည်း ဖြစ်၏၊ ဝိတက် ဝိစာရတို့၏ မရှိခြင်းမျှကို ပြတတ်သည် မဟုတ်။

သို့သော် - အဝိတက္ကံ အဝိစာရံ = ဝိတက် မရှိသော ဝိစာရ မရှိသော - ဟူသော ဤ စကားသည်ကား ဤဒုတိယဈာန်၌ ဝိတက် ဝိစာရတို့၏ မရှိခြင်းမျှကိုသာလျှင် ပြတတ်ရာ၏၊ ထိုကြောင့် ရှေးဖြစ်သော ဝိတက် ဝိစာရာနံ ဝူပသမာ = ဝိတက် ဝိစာရတို့ကို ငြိမ်းစေခြင်းကြောင့်ဟူသော စကားကို ပြောဆိုပြီး၍လည်း အဝိတက္ကံ အဝိစာရံ = ဝိတက် မရှိသော ဝိစာရ မရှိသောဟူသော နောက်စကားကို ပြောဆိုသင့်သည်သာ ဖြစ်ပေသည်။ ထိုကြောင့် ဝိတက် ဝိစာရတို့ကို ငြိမ်းစေခြင်းကြောင့်ဟု ဆိုပြီးသော်လည်း ဝိတက် မရှိသော ဝိစာရ မရှိသော ဟူသော စကားကိုလည်း ဤဒုတိယဈာန်၏ ဂုဏ်ကို ဖော်ပြရာဝယ် ထပ်မံ၍ ဆိုရပြန်ပေသည်။

(ဝိသုဒ္ဓိ-၁-၁၅၂-၁၅၃။)

**သမာဓိဇံ = သမာဓိကြောင့် ဖြစ်သော —**

ဤဒုတိယဈာန်ကား ပထမဈာန်သမာဓိက ဥပနိဿယပစ္စယသော သတ္တိတို့ဖြင့် ကျေးဇူးပြုပေးခြင်းကြောင့် လည်းကောင်း, ဒုတိယဈာန်သမာဓိဟူသော မိမိ ဒုတိယဈာန်နှင့် စိတ္တက္ခဏတစ်ခုအတွင်း အတူယှဉ်တွဲ ဖြစ် သည့် သမ္ပယုတ်သမာဓိကလည်း သဟဇာတ အညမည နိဿယပစ္စယသော သတ္တိတို့ဖြင့် ကျေးဇူးပြုပေးခြင်းကြောင့် လည်းကောင်း ဖြစ်ပေါ်လာရသဖြင့် သမာဓိဇံ = သမာဓိကြောင့်ဖြစ်သောဟု ဟောကြားတော်မူခြင်း ဖြစ်ပေ သည်။ ထိုပထမဈာန် ဒုတိယဈာန် နှစ်ပါးတို့တွင် ပထမဈာန်သည်လည်း မိမိ ပထမဈာန်နှင့် စိတ္တက္ခဏတစ်ခု အတွင်း၌ အတူယှဉ်တွဲ ဖြစ်သည့် သမ္ပယုတ် သမာဓိကြောင့်ပင် အကယ်၍ကား ဖြစ်ပေါ်လာပေ၏၊ ထိုသို့ ဖြစ်သော်လည်း ဤဒုတိယဈာန်သမာဓိသည်သာလျှင် သမာဓိဟူ၍ ဆိုအပ်သည်၏ အဖြစ်ကို ထိုက်တန်၏။ အဘယ်ကြောင့်နည်းဟူမူ — စိတ်အစဉ်ကို ထိုထို အာရုံသို့ ရောက်အောင် ရှေးရှုတင်ပေးခြင်း ဆုပ်နယ်ပေး ခြင်းဖြင့် ဝိတက် ဝိစာရတို့သည် စိတ်ကို လှုပ်ချောက်ချားစေတတ်၏၊ ဒုတိယဈာန်၌ကား ထိုကဲ့သို့ စိတ်ကို လှုပ် ချောက်ချားစေတတ်သော ဝိတက် ဝိစာရ ကင်းသဖြင့် အလွန်လျှင် တုန်လှုပ်ခြင်း ကင်းသည်၏ အဖြစ်ကြောင့် လည်းကောင်း, ကောင်းစွာ ကြည်လင်သည်၏ အဖြစ်ကြောင့်လည်းကောင်း ဤဒုတိယဈာန်သမာဓိသည်သာလျှင် သမာဓိဟူ၍ ဆိုအပ်သည်၏ အဖြစ်ကို ထိုက်တန်ပေသည်။ ထိုသို့ ဒုတိယဈာန်သမာဓိ၏သာလျှင် သမာဓိဟူ၍ ဆိုခြင်းငှာ ထိုက်သည်၏ အဖြစ်ကြောင့် ဤဒုတိယဈာန်၏ ဂုဏ်ကျေးဇူးကို ချီးမွမ်းခြင်းငှာ ဤဒုတိယဈာန်ကို သာလျှင် **သမာဓိဇံ = သမာဓိကြောင့်** ဖြစ်၏ဟူ၍ ဘုရားရှင်သည် ဟောကြားတော်မူအပ်ပေသည်။

(ဝိသုဒ္ဓိ-၁-၁၅၃။)

အသင် ယောဂီသူတော်ကောင်းသည် ဤအထက်ပါ ရှင်းလင်းချက်များကို ဖတ်ရှုပြီးပါက အောက်ပါ ဘုရားဟောဒေသနာတော်ကို ဖတ်ရှုပါလျှင် လွယ်ကူစွာပင် နားလည်၍ အရသာ ပေါ်လွင်နေမည် ဖြစ်ပေသည်။

ဝိတက္ကဝိစာရာနံ ဝူပသမာ အဇ္ဈတ္တံ သမ္ပသာဒနံ စေတသော ဧကောဒိဘာဝံ အဝိတက္ကံ အဝိစာရံ သမာဓိဇံ ပီတိသုခံ ဒုတိယံ ဈာနံ ဥပသမ္ပဇ္ဇ ဝိဟရတိ။ (မ-၁-၈၉။)

= ဝိတက် ဝိစာရတို့၏ ချုပ်ငြိမ်းခြင်းကြောင့် မိမိ၏ ကိုယ်တွင်း အဇ္ဈတ္တသန္တာန်၌ ဖြစ်သော စိတ်ကို ကြည်လင်စေတတ်သော, စိတ်၏ မြတ်သော တည်ကြည်မှု = သမာဓိကို ပွားစေတတ်သော ဝိတက် မရှိသော ဝိစာရ မရှိသော, ပထမစျာန်သမာဓိကြောင့် ဖြစ်သော (သို့မဟုတ် မိမိနှင့် အတူယှဉ်ဖက် သမ္ပယုတ်သမာဓိကြောင့် ဖြစ်သော) နှစ်သက်ခြင်း = ပီတိ, ချမ်းသာခြင်း = သုခ ရှိသော ဒုတိယစျာန်ကို ပြည့်စုံစေ၍ ဒုတိယစျာန်သို့ ကပ်ရောက်၍ နေထိုင်ပေ၏။ (မ-၁-၈၉။)

## ဝိတက် ဝိစာရ ပြတ်ချိန်

ယထာ စ ပဌမဇ္ဈာနဿ ဥပစာရက္ခဏေ နီဝရဏာနိ ပဟီယန္တိ ၊ န တထာ ဣမဿ ဝိတက္ကဝိစာရာ။ အပ္ပနာက္ခဏေယေဝ စ ပနေတံ ဝိနာ တေဟိ ဥပ္ပဇ္ဇတိ။ တေနဿ တေ “ပဟာနင်္ဂ”န္တိ ဝုစ္စန္တိ။ ပီတိ သုခံ စိတ္တေကဂ္ဂတာတိ ဣမေသံ ပန တိဏ္ဏံ ဥပ္ပတ္တိဝသေန တိဝင်္ဂသမန္နာဂတတာ ဝေဒိတဗ္ဗာ။ (ဝိသုဒ္ဓိ-၁-၁၅၃။)

ပထမစျာန်၏ ဥပစာရသမာဓိအခိုက် ခဏ၌ နီဝရဏတို့ကို ပယ်အပ်ကုန်၏သို့ အလားတူ ဤဒုတိယစျာန်၏ ဥပစာရသမာဓိအခိုက် ခဏ၌ ဝိတက် ဝိစာရတို့ကို ပယ်အပ်သည်ကား မဟုတ်ကုန်၊ အဘယ်ကြောင့်နည်းဟူမူ ဝိတက် ဝိစာရတို့၏ စိတ်အစဉ်ကို ညစ်နွမ်းစေတတ် ပူပန်စေတတ်သော သံကိလိဋ္ဌသဘော မရှိသည်၏ အဖြစ်ကြောင့်လည်းကောင်း, ဥပစာရဘာဝနာ၏လည်း ထိုဝိတက် ဝိစာရတို့ကို ပယ်ခြင်းငှာ မစွမ်းနိုင်သည်၏ အဖြစ်ကြောင့်လည်းကောင်း ဤအကြောင်း နှစ်ပါးကြောင့် ဖြစ်ပေသည်။ အမှန်စင်စစ်အားဖြင့်မူကား အပ္ပနာစျာန် စောခိုက်၌သာလျှင် ဤဒုတိယစျာန်သည် ထိုဝိတက် ဝိစာရတို့နှင့် ကင်း၍ ဖြစ်ပေါ်လာပေသည်။ ထိုကြောင့် ထို ဝိတက် ဝိစာရတို့ကို ထို ဒုတိယစျာန်၏ ပယ်အပ်သော အင်္ဂါရပ်တို့ဟူ၍ ဆိုအပ်ကုန်သည်။ တစ်ဖန် ပီတိ သုခ စိတ္တေကဂ္ဂတာ — ဤတရားသုံးပါးတို့၏ ထင်ရှားဖြစ်ခြင်း၏ အစွမ်းဖြင့် ထိုဒုတိယစျာန်၏ သုံးပါးသော အင်္ဂါနှင့် ပြည့်စုံသည်၏ အဖြစ်ကို သိရှိပါလေ။ (ဝိသုဒ္ဓိ-၁-၁၅၃။)

ဤအဋ္ဌကထာ၏ သတ်မှတ်ချက် မိန့်ဆိုတော်မူချက်အရ အထွတ်အထိပ်သို့ ရောက်နေသော ဥပစာရသမာဓိ အမည်ရသော, ဒုတိယစျာနဝီထိ ဒုတိယစျာနသမာပတ္တိဝီထိ စသည်တို့၌ အကျုံးဝင်သော ပရိကံ ဥပစာ အနုလုံ ဂေါတြဘု ဟူသော ဥပစာရဇောတို့၌ ဝိတက် ဝိစာရ မပြတ်သေးဘဲ ယှဉ်လျက်ပင် ရှိနေသေးသည်ဟု မှတ်ပါ။ ဤ ဒုတိယစျာန်ကိုလည်း ဝသီဘော်ငါးတန် နိုင်နင်းအောင် လေ့ကျင့်ပါ။ ဝိတက် ဝိစာရ ပြတ်-မပြတ်ကို ကြိမ်ဖန်များစွာ ဆန်းစစ်ကြည့်ပါ။ ဤ ဒုတိယစျာန်၌လည်း ရစတွင် ဝင်စားမှု များပါစေ၊ စျာန်အင်္ဂါကို ဆင်ခြင်မှု နည်းပါစေ။

